သစ္စာအလင်း

ကျေးဇူးတော်ရှင်အဂ္ဂမဟာပဏ္ဍိတ

မိုးကုတ်ဆရာတော်ဘုရားကြီး

ဟောကြားတော်မူခဲ့သော



# သမထ နှင့် ဝိပဿနာ

အဃေမဦးခင် ဦးဝင်းဇင်(မြိတ်)
စုစည်းပူဇော်သည်

ပုံနှိပ်မှတ်တမ်း

ထုတ်ဝေသည့်အကြိမ်
၂၀၁၀ - ခုနှစ်၊ ဇွန်လ (ပထမအကြိမ်)

အုပ်ရေ
၁၀၀၀

တန်ဖိုး
၅၀၀ ကျပ်

သာသနာရေးဝန်ကြီးဌာန၊ သာသနာရေးဦးစီးဌာန
ပုံနှိပ်ထုတ်ဝေရေးဌာနခွဲ၊ ညွှန်ကြားရေးမှူး ဦးဝင်းနိုင်
မှတ်ပုံတင်အမှတ် (၀၃၈၄၃ / ၀၂၄၀၅) မှခွင့်ပြုချက်ဖြင့်
စာအမှတ်(၁၁၉/ ၀၀/ (ပုံနှိပ်) သာသန - ၁၀)အရ
ရိုက်နှိပ်ထုတ်ဝေသည်

ပုံနှိပ်သူ
ဒေါ်ကြည်ပြာသွယ်
ဝင်းတိုးအောင် ပုံနှိပ်တိုက်
အမှတ် (၁၈၁)၊ လမ်း(၅၀)၊ ရန်ကုန်

စာအုပ်ချုပ်
ဖူးသွင်ဝေမှူး

မျက်နှာဖုံးဖလင်
Eagle

အတွင်းဖလင်
A Z

မျက်နှာဖုံးဒီဇိုင်း
ဝင်းဝင်း(မြိတ်)
( WZ Art & Design Group)

# သစ္စာစကား

ငါ့တွက်ပြားခြောက်
ဂုဏ်လာသော်ရောက်ရှိ
စလောက်ကြီးကုတ်
အားမထုတ်ဘူး
ဗုဒ္ဓမြတ်စွာ
သာသနာဝင်
သစ္စာလေးပါး
မြတ်တရားသည်
ရှည်လျားကမ္ဘာ
တည်စိမ့်ငှာဟု
ပညာရှင်းသမျှ
ကြိုးပမ်းရသည်
ဓမ္မသာသနာ
လင်းရောင်ခြာလျှက်
မှောင်ခွာပယ်ရှင်း
တည်စေစေသော်။

သစ္စာအလင်းစာစဉ်(၁၂)

သစ္စာအလင်း ဓမ္မစာပေဖြန့်ချိရေး
တိုက်(၀၀/၁၂)၊ အခန်း(၂၀၂)၊ (၃)လွှာ၊ အထက်ပုဇွန်တောင်လမ်းနှင့် နယ်နီလမ်းထောင့်
ပုဇွန်တောင်ဝန်ကြီး မီးပွိုင့်အနီး၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်။
ဖုန်း - ၀၉ ၅၁၃၀၀၂၆၊ ၀၁ ၂၉၀၄၆၃

## သစ္စာ အလင်း ရဲ့ သစ္စာ စကား

မြတ်ဗုဒ္ဓရဲ့ ဆိုဆုံးမစကား
အနှစ်သာရများကို
ကွက်ကွက် ကွင်းကွင်း
အဓိပ္ပါယ်ပေါ်စေပြီး
တိတိ ကျကျ ရှင်းလင်းမြင်လွယ်အောင်
ဟောဖော်ညွှန်ပြတော်မူခဲ့တဲ့
ကျေးဇူးတော်ရှင်
မိုးကုတ်ဆရာတော်ဘုရားကြီးရဲ့
ဉာဏ်တော်ကို
ဦးထိပ်ပန်ဆင်ကာ
ဂုဏ်တော်အား
ရည်မှန်းလျှက်
ကျိုတရားတော်များကို
ယောဂီများအတွက်
စုစည်းပူဇော်ပါတယ်။

အသေမဦးခင် ဦးဝင်းဖင် (မြိတ်)

### သမထနဲ့ ဝိပဿနာ

သမ္မာဒိဋ္ဌိမှန်ကန်တဲ့အမြင်ဆိုတာ ဒုက္ခတော၊ ဇာနတော၊ ပဿတော၊ သမ္မာဒိဋ္ဌိဟောတိ၊ အင်း ဒုက္ခလေးတွေ့တယ်ဆိုရင် သိတယ် ဒုက္ခကို ရှုနိုင်တယ်ဆိုလို့ရှိရင်လည်း သမ္မာဒိဋ္ဌိကတော့ဖြစ်ပြီ၊ သို့သော် ဝိပဿနာသမ္မာဒိဋ္ဌိ ဖြစ်ဖို့လိုတယ်ပေါ့။

မဂ္ဂသမ္မာဒိဋ္ဌိက ဒီဒုက္ခတွေကြည့်ပြီးသိတော့ ဒုက္ခရှာမတွေ့တော့ဘူး၊ ဒုက္ခအဆုံးချည်းတွေ့နေတယ်၊ ဒုက္ခမရှိတာချည်း တွေ့နေတယ်၊ ဒုက္ခဆုံးတာချည်းတွေ့နေတယ်ဆိုတော့ မဂ္ဂသမ္မာဒိဋ္ဌိက ဟုတ်ပလား။ အဲဒီရောက်လို့ သိတဲ့ပုဂ္ဂိုလ်မှသာလျှင်၊ မဂ္ဂသမ္မာဒိဋ္ဌိ အစစ်ဖြစ်သောကြောင့် အဲဒီရောက်အောင် ကြိုးစားကြရမယ်၊ သာသနာတွင်းကြုံတာနဲ့တူအောင်ဆိုလို့ဖြင့်၊ ဒုက္ခဆုံးသည့် တိုင်အောင် ရှုရလိမ့်မယ်။

သာသနာတွင်းကြုံတယ်၊ ဆရာကောင်း သမားကောင်းကြုံတယ်၊ ခင်ဗျားတို့ ဆုတောင်းဆုံတယ်၊ လူ့ဘဝရရပါလို၏။ သဒ္ဓါတရားနဲ့ ပြည့်စုံရပါလို၏၊ ကလျာဏ မိတ္တဆိုတဲ့ ဆရာကောင်းနဲ့ တွေ့ရပါလို၏ဆိုတာ ခင်ဗျာတို့ဘက်က ဆုတောင်း

တွေ့ပါ၊ ခင်ဗျားတို့ဘက်က ဆုတောင်းသုံးခု ခင်ဗျားတို့ ပါတယ်။ အဲဒီဆုတောင်းတွေအကုန်နဲ့၊ သာသနာတွင်းကြုံတဲ့ တရားကို သိရမှသာလျှင်၊ ကိစ္စပြီးတယ်ဆိုတာ မှတ်မိကြပလား၊ ဆုတောင်းက လူ့ဘဝရခြင်း၊ တရားနာခြင်းဆိုတဲ့ သဒ္ဓါသမ္ပတ္တိနဲ့ ပြည့်စုံခြင်းပဲဗျာ။

တရားနာတဲ့ သဒ္ဓါသမ္ပတ္တိနဲ့ ပြည့်စုံခြင်းဆိုတော့ လူ့ဘဝရခြင်း၊ ကလျာဏမိတ္တဆိုတဲ့ သူတော်ကောင်းနဲ့ ပေါင်းသင်းရခြင်း၊ ဒါ ဆုတောင်းမပါဘဲနဲ့ ခင်ဗျားတို့ ဒီလို မတွေ့နိုင်ဘူး။ ကိုယ်တောင်းလာတဲ့ဆု ဒီနေရာဆုံတဲ့အခါကျလို့ရှိရင်ဖြင့် ကလျာဏမိတ္တဆရာကောင်းနဲ့ တွေ့ရပြီ၊ ခင်ဗျားတို့မှာ ဟောကြားညွှန်ပြဆုံးမတဲ့အတိုင်း ဘုရားတာဝန်၊ ဆရာ့တာဝန်ကုန်ပြီး ခင်ဗျားတာဝန်ရှိသလောက်ကို ကျင့်ကြံကြိုး ကုတ်အားထုတ်ကြမယ် ဆိုလို့ရှိရင်ဖြင့် ဒီဘဝကိစ္စ ပြီးမယ်၊ ဒီဘဝကိစ္စ ပြီးနိုင်တဲ့ အခြေအနေရှိတာ အမှန်ပဲ။

အဲဒါကလေးကိုဖြင့် အလွဲသုံးစားအချိန်တွေနဲ့ အလကားမသွားလိုက်ပါနဲ့ဆိုတာ သတိကလည်းနေ့တိုင်း ပေးရတယ်။ ကိုင်း ဒကာ ဒကာမတို့ အသိသုံးမျိုးရှင်းပလား၊ အင်း - ဒါဖြင့် ဝေဒနာသိမှုဆိုတဲ့ ဉာဏ်တစ်မျိုး ဖြစ်ဒုက္ခပျက်ဒုက္ခ သိမှုဆိုတဲ့ဉာဏ်က တစ်မျိုး၊ ဖြစ်ဒုက္ခပျက်ဒုက္ခအဆုံး သိမှုဆိုတဲ့ ဉာဏ်က တစ်မျိုး၊ အဲဒါတွေကဖြင့် ဉာဏ်တော့ဉာဏ်ချည်းပဲ၊ သို့သော် အနအရင့်အချက် ကွာသွားတယ်။

သာသနာတွင်းကြုံပြီး ကိုယ့်ကိုယ်ကို မိစ္ဆာဒိဋ္ဌိဖြစ်နေ



တာ မသိတာပြောပါဦး၊ အခုတော့ဖြင့် ဝေဒနာဟူသ၍ ဒုက္ခပဲလို့ ရှုနိုင်တော့ သမ္မာဒိဋ္ဌိဖြစ်နေတယ်လို့ ဘုရားကမဟောဘူးလား။ တစ်ခါတလေ ဝေဒနာတွေက တွေ့တွေ့နေတယ်၊ ချမ်းလိုက်တာ၊ ချမ်းလိုက်တာ ကျုပ်ဖြင့် အင်မတန် ချမ်းတာပဲ၊ ကျုပ်ချမ်းသလို သူများတော့ဖြင့် ချမ်းချင်မှ ချမ်းမှာပဲ ကျုပ်ဖြင့် သိပ်ချမ်းတာပဲ၊ သုခဝေဒနာ၊ ဒုက္ခဝေဒနာ ကျုပ်ဖြစ်နေတယ်။

ဒုက္ခတော၊ ဇာနတော၊ ပဿတောတဲ့ ဒုက္ခရယ်လို့ မမြင်ပါ၊ အဲဒါ မိစ္ဆာဒိဋ္ဌိတဲ့ အင်း သာသနာတွင်းကြုံပြီး မိစ္ဆာဒိဋ္ဌိဖြစ်နေပါတယ်၊ အင်း တစ်ခါတလေကျတော့၊ ကျုပ်နေကောင်းလိုက်တာ၊ နေကောင်းလိုက်တာ ကျုပ်နေကောင်းပုံဖြင့် အရင်ငယ်ငယ်တုန်းက ကောင်းသလို၊ ကောင်းတာပဲ၊ ဒါဖြင့် သုခဝေဒနာပေါ်တာပေါ့ဗျာ၊ အဲဒါ ကျုပ်ကယ်လို့ ထင်ပြန်တော့ သုခဝေဒနာကို ဒုက္ခတော၊ ဇာနတော၊ ပဿတော၊ သမ္မာဒိဋ္ဌိ ဟောတိလို့ အခုနသံယုတ်ပါဠိတော်ကဟောတာနဲ့ ပြောင်းပြန်ကြီး ဖြစ်နေတယ်။

ဝေဒနာဟာ ချမ်းသာတာအစစ်ပဲလို့ ဆိုပြီး လာပြန်တော့လည်း ဒါဟာ သာသနာတွင်း ကြုံရက်နဲ့၊ မိစ္ဆာဒိဋ္ဌိဖြစ်နေပါတယ်၊ မိစ္ဆာဒိဋ္ဌိတွေ ရှိသေးတယ်၊ ဝေဒနာသည် ဖြစ်ပြီးပျက်တဲ့ဒုက္ခကိုပင်လျှင် စိတ်ချမ်းသာတယ်၊ စိတ်နေဆိုးတယ်၊ အပြောလည်းပြော၊ အထင်လည်းထင်လို့ရှိရင်ဖြင့် မိစ္ဆာဒိဋ္ဌိပါ။

သာသနာတွင်း မိစ္ဆာဒိဋ္ဌိပါပဲ၊ သာသနာတွင်း မိစ္ဆာဒိဋ္ဌိဆို

တော့ အင်မတန်ဆိုးဝါးတယ်၊ ကြောက်စရာလည်း သိပ် ကောင်းတယ်၊တစ်ခါတလေကျတော့ လျစ်လျူရှုတဲ့ဥပေက္ခာ ဝေဒနာလေးသိထား၊ အဲဒီဝေဒနာလေးပေါ်တိုင်း ပေါ်တိုင်း ကျုပ်တော့ဖြင့် နေကောင်းတယ်လည်းမဟုတ် မကောင်းဘူးလည်းမဟုတ်ဘူး အလတ်စားလောက်ပဲရှိတယ်၊ ဒီလောက် ဆိုရင်ကျုပ်က ကျေနပ်ပါပြီ၊ အရင်နဲ့စာရင် ကျေနပ်ပါပြီ ဒီ အနေလေးနေတာကို ကျေနပ်ပါပြီဆိုတော့ ဥပေက္ခာဝေဒနာဖြစ်ပါတယ်။

ဒါကျတော့လဲ မိစ္ဆာဒိဋ္ဌိပါ၊ သာသနာတွင်းမိစ္ဆာဒိဋ္ဌိပဲ၊ ဘုရားက သုခံဝါ ဒုက္ခံဝါ၊ အဒုက္ခံမသုခံဝါ၊ တမ္ပိဒုက္ခတော၊ ဇာနတော၊ ပဿတော၊ သမ္မာဒိဋ္ဌိဟောတိတဲ့။ ဒါပေါ်တိုင်း ပေါ်တိုင်း၊ ဒုက္ခတွေလို့ သိသိပေးမှ သမ္မာဒိဋ္ဌိ ဖြစ်မှာကိုးဗျ၊ အနိစ္စလို့သိရင်လည်း သမ္မာဒိဋ္ဌိ၊ ဒုက္ခလို့သိရင် လည်း သမ္မာဒိဋ္ဌိ၊ အနတ္တလို့သိရင်လည်း သမ္မာဒိဋ္ဌိပါပဲ၊ ဒီသုံးခုထဲ တစ်ခုခုမှ မဝင်လာလို့ရှိရင်ဖြင့် မိစ္ဆာဒိဋ္ဌိဖြစ်ပါတယ်တဲ့ နော်။

ဒီလို ဆရာကောင်း၊ သမားကောင်းနဲ့ တွေ့တုံးမှ ခင်ဗျားတို့ မပြောင်းလိုက်၊ မပြင်လိုက်လို့ရှိရင်ဖြင့် သာသနာတွင်း မိစ္ဆာ ဒိဋ္ဌိပဲ၊ ဒီအထဲ အလုံးစုံ သက်ရောက်သွားတယ်၊ ကြောက်စရာကောင်းပါတယ်။

မိစ္ဆာဒိဋ္ဌိ ဘိက္ခုဝေ ဒွိန္နံ ဂတီနံ အညတရံဝါ

မိစ္ဆာဒိဋ္ဌိနဲ့သေသွားလို့ရှိရင်ဖြင့်တဲ့တိရစ္ဆာန်ဂတိ၊ ငရဲဂတိ၊ အဲဒီနှစ်ခုတို့တွင် တစ်ခုခုသေချာတယ်ဟေ့တဲ့ မိစ္ဆာဒိဋ္ဌိနဲ့ သေသွားရင် ငါတော့ ဒီဝေဒနာနဲ့သေရမှာပဲလို့ ဆိုလို့ရှိရင်



ဖြင့် ငါ့ဝေဒနာနဲ့ ငါသေမှာပါပဲ၊ သူများမသတ်ပါဘူးဆိုလို့ရှိရင် မိစ္ဆာဒိဋ္ဌိနဲ့ သေသွားပါတယ်။

အဲဒီတော့ ဒွိန္နံ ဂတီနံပဲ ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာဆိုတဲ့ အပါယ်လေးပါး၊ ဂတိတွေထဲက တစ်ခုခုသွားပေတော့လို့ ဘုရားက ဟောလိုက်တာပဲ၊ အဲဒါကြောင့် သာသနာတွင်း မိစ္ဆာဒိဋ္ဌိမဖြစ်အောင် ဝေဒနာပေါ်တိုင်း ပေါ်တိုင်း သုခံဝါ ဒုက္ခံဝါ၊ အဒုက္ခံမသုခံဝါလို့ သုခဖြစ်ဖြစ် ဒုက္ခဖြစ်ဖြစ် သုခတော၊ ဇာနတော၊ ပဿတော၊ သမ္မာဒိဋ္ဌိဟောတိ ဒုက္ခလို့ရှုပေး၊ ဒုက္ခလို့မြင်ပေး သမ္မာဒိဋ္ဌိဖြစ်သွားပြီ။ ဒီလိုကျတော့လည်း မဂ္ဂင်ဆိုက်မယ်၊ ဒီလိုမရှုနိုင်တဲ့ ပုဂ္ဂိုလ်ကျတော့ မိစ္ဆာဒိဋ္ဌိဖြစ်ပြီ၊ ဒီကနေ့ဟောပေးတဲ့အရေးဟာဖြင့် ပြောင်းရမယ့်အရေးပဲနော်၊ ဒုက္ခအရေးပဲ၊ ဒုက္ခတွေလို့ သိဖို့ပဲ ဝေဒနာလေး ပေါ်လာတိုင်း ပေါ်လာတိုင်း ဒုက္ခလေးလို့ သိရပါမယ်။

ဒုက္ခလေးလို့သိ၊ ဒုက္ခလေးလို့ရှု၊ အဲဒီကဲ့သို့ ရှုလိုက်သည်ရှိသော် သမ္မာဒိဋ္ဌိဖြစ်ပြီ၊ ဝေဒနာကို ငါလို့ရှုလိုက်သည်ရှိသော် မိစ္ဆာဒိဋ္ဌိဖြစ်ပါတယ်၊ အေး ဒါလေးလည်း ပြင်ကြပါဦးလို့ ပြောရတယ်၊ ပြင်မှ ပြင်မှ အပြောငါတော့ ဘုန်းကြီးက သမုတိသစ္စာလို့ မဆိုလိုဘူး၊ အပြင်ငါကိုဖြင့် မလိုက်ပါနဲ့လို့ ပြောရခြင်းဖြစ်တယ်။

ဘုရားသခင်ကိုယ်တော်မြတ်ကြီးက အားလုံး ရဟန်းတွေ တရားဟောတော်မူတဲ့အခါ ဒုက္ခမေဝဟိ၊ သမ္ဘောတိ၊ ဒုက္ခမေဝ ဖြစ်ပေါ်လာတဲ့ဝေဒနာလေးဟာ ဒုက္ခတရားသာလျှင် သမ္ဘောတိ

ဖြစ်လာ၏။ အင်း ဒီဝေဒနာလေး ပေါ်လာတာဟာ ဒုက္ခပေါ်တာပါ၊ အဲဒါကြောင့် ဒုက္ခမေဝဟိ၊ သမ္ဘောတိ ဒုက္ခမေဝ = ဒုက္ခတရားသည်သာလျှင် သမ္ဘောတိ၊ မိမိသန္တာန်၌ ဖြစ်ပေါ်၏၊ ဒုက္ခပေါ်ပြီလို့သာမှတ်လိုက်၊ ဒုက္ခံ တိဋ္ဌတိ၊ ဝေတိစ ခဏလေးတည်နေပြန်လည်း၊ အင်း - ဒါဒုက္ခတွေတည်နေတာပဲ၊ ဒုက္ခမေဝ ဝေတိစ ပျက်သွားတာလည်း ဒုက္ခကလေးကိုးလို့ အောက်မေ့ပါ။

ဒါဖြင့် ဒုက္ခလေးပေါ်၍ ဒုက္ခလေးတည်အောင်နှင့် ဒုက္ခလေးပျက်သည် တည်နေမှာစိုးလို့၊ ဒုက္ခပေါ်၍ ဒုက္ခပျက်သည်၊ ဆိုပြီး ဒီထက်တစ်ခါ လွယ်အောင်လို့ ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခ၊ ဒီပါဠိတော်ကလာတာ ဖြစ်ဒုက္ခပျက်ဒုက္ခဆိုတာ ကျေနပ်ကြပလား အေး ဒါကြောင့် ဘယ်ဝေဒနာပေါ်လာလာ ဖြစ်တာလဲ ဒုက္ခ၊ ပျက်တာလည်း ဒုက္ခ အဲဒါဖြင့် မမိ မိအောင်ရှုကြပေါ့ဗျာ။

အညတြဒုက္ခါသမ္ဘောတိတဲ့၊ ဒုက္ခံ = ဒုက္ခကို၊ အညတြ = ကြဉ်ထား၍၊ သမ္ဘောတိ = ဖြစ်တဲ့တရားသည် နတ္ထိ = မရှိဘူးတဲ့။ မင်းတို့သန္တာန်ဖြစ်ပေါ်လာတဲ့ ၊ ဝေဒနာသည် ဒုက္ခမှ တစ်ပါးမရှိဘူးဟေးတဲ့၊ ဖြစ်တာဟာဖြင့် ဒုက္ခချည်းသာ ဆုံးဖြတ်ချက်ချလိုက်ကြပါတော့တဲ့။

ဒုက္ခမှတစ်ပါး၊ မင်းတို့သန္တာန်မှာဖြစ်နေတဲ့တရား ငါ သဗ္ဗညုတဉာဏ်နဲ့ ရှာလို့ရှိရင် တစ်လုံးမှမတွေ့ဘူးတဲ့၊ ဒကာ ဒကာမတို့ သန္တာန်မှာ ရုပ်တွေပေါ်နေလည်း ဒုက္ခတွေဖြစ်နေတယ်၊ နာမ်တွေပေါ်နေလည်း ဒုက္ခတွေဖြစ်နေပါတယ်၊ အင်း



ဒါဖြင့် သဗ္ဗညုတဉာဏ်နဲ့ ကြည့်လိုက်တဲ့အခါကျတော့၊ ဒုက္ခာ = ဒုက္ခကို၊ အညတြ = ကြဉ်ထား၍ သမ္ဘောတိ = ဖြစ်တဲ့တရားသည်၊ နတ္ထိ = မရှိဘူးကွ၊ ဖြစ်နေတဲ့တရားသည် ဒုက္ခတွေချည်းပဲ။

အေး ဒါကြောင့် ခင်ဗျားတို့ သန္တာန်ပေါ်တိုင်း ပေါ်တိုင်း ဉာဏ်ကလေးနဲ့ ဦးတည်ပေးစမ်းပါတဲ့၊ ဒုက္ခလေးပေါ်လာပဟာ၊ ဒုက္ခလေးပေါ်လာပဟာ၊ ဒုက္ခမှတစ်ပါး ပေါ်စရာခန္ဓာကိုယ်ထဲ ဘာမှမရှိဘူး။ ရုပ်ပေါ်လာရော၊ ဒုက္ခ၊ နာမ်ပေါ်လာရော ဒုက္ခပါ၊ ဝေဒနာသုံးမျိုး တစ်ခုခုပေါ်လာရင်လဲ အေး - ဒုက္ခချည်းပဲ၊ ဒီပြင် ဘာမှ ပေါ်စရာမရှိဘူးတဲ့၊ နာညံ ဒုက္ခံ နိရုဇ္ဈတိ၊ ဒုက္ခံ = ဒုက္ခကို၊ အညတြ = ကြဉ်ထား၍ အညံ = တစ်ပါးသည်လည်း၊ နိရုဇ္ဈတိ = ထုတ်ပယ်လို့ မဖြစ်ဘူး၊ ဒုက္ခလေးလည်း ချုပ်သွားတာပဲဒကာဒကာမတို့ပေါ်လာတာလည်းဒုက္ခလေးလို့သိထားတော့ ချုပ်သွားတာလည်း ဒုက္ခလေးပါပဲနော်။

အေး ဒါကြောင့် ဒုက္ခမေဝ ဥပ္ပဇ္ဇမာနံ ဒုက္ခမေဝနိရုဇ္ဈမာနံ ဒုက္ခဖြစ်၍ ဒုက္ခချုပ်တာပဲ၊ အဲ - ဒကာ ဒကာမတွေ သန္တာန်မှာ ရုပ်ပေါ်လည်း ဒုက္ခဖြစ် ဒုက္ခချုပ် နာမ်ပေါ်လည်း ဒုက္ခဖြစ် ဒုက္ခချုပ်ပါ။

ဒါကြောင့် ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခလို့မြန်မာလို ဒီဂါထာကိုပြင်ပြီး သိလွယ်တဲ့နည်းနဲ့ ပြောထားတာ၊ ဝေဒနာပေါ်လို့ရှိရင် ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခပေါ်အောင် ကြည့်ကြပေါ့ဗျာ၊ အေး ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခရောက်အောင် ကြည့်လိုက်လို့ရှိရင်ဖြင့် တိမ်းစရာ

စောင်းစရာရှိသေးရဲ့လား၊ ဒါကြောင့် ဘာကလေးပေါ်လာလာ၊ ရုပ်ကလေးတစ်ခု အသစ်ပေါ်ပေါ်လာတယ်ဆိုရင် ဒုက္ခပေါ်လာတာပဲ၊ ဒုက္ခဆိုရင် ချုပ်ဦးမှာပဲ။

ဒုက္ခလေးပေါ်၊ ဒုက္ခလေးချုပ်မှာပဲဆိုတော့၊ ဒါက သမ္မာဒိဋ္ဌိ ဖြစ်သွားတယ်၊ ဝိပဿနာသမ္မာဒိဋ္ဌိပဲပေါ့၊ အေး ဒါက ဝိပဿနာ သမ္မာဒိဋ္ဌိ၊ ခုနကပြောတဲ့ ဒီနေရာလေးပဲ ပြန်ကြည့်လိုက်တဲ့ အခါ ဒုက္ခမတွေ့ပဲနဲ့ ဒုက္ခဆုံးတာလေးတွေ့နေလို့ရှိရင်ဖြင့် မဂ္ဂသမ္မာဒိဋ္ဌိပါပဲ။

အေး - ဒုက္ခအဆုံးလေးကို ဉာဏ်နဲ့ရှုပြီး တွေ့နေရင် အဲဒီဉာဏ်ကတော့ မဂ္ဂသမ္မာဒိဋ္ဌိ၊ ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခပဲတွေ့နေရင် ဝိပဿနာသမ္မာဒိဋ္ဌိတဲ့။ ဒီဂါထာအတိုင်း ရှုကြမယ် မှတ်ကြမယ် ကျင့်ကြမယ်ဆိုလို့ရှိရင် အပါယ်လေးပါး တံခါးပိတ်၍ နိဗ္ဗာန်ကိုယ်တိုင်မြင်ရ တဲ့အလုပ်ပါပဲ။ဝတ္ထုတစ်ခုထုတ်ပြမယ်၊ ဘုရားသခင်ကိုယ်တော်မြတ်ကြီးက ပရိနိဗ္ဗာန်စံသွားတယ်၊ ပရိနိဗ္ဗာန်စံသွားတော့ ရှင်အာနန္ဒာနဲ့၊ ဝဿကာရပုဏ္ဏားတို့တွေ့တယ် အဇာတသတ်မင်း၏ ပရောဟိတ်ပုဏ္ဏား ပေါ့ဗျာ။

ဒါနဲ့ ရှင်အာနန္ဒာကိုလည်း သူကကြည်ညိုပြီးသားဖြစ်တာနဲ့ ရှင်အာနန္ဒာကို ဝင်ပြီး ဝတ်တွေ၊ ဘာတွေချလို့ အရှင်ဘုရားကို တပည့်တော် မေးစရာရှိတာ၊ အရှင်ဘုရားနဲ့ ဆုံတဲ့အခါ လျှောက်ပရစေဘုရားဆိုတော့၊ အေး - လျှောက်တာပေါ့ကွာတဲ့။

ဘုရားက ပရိနိဗ္ဗာန်စံသွားပြီဘုရား တပည့်တော်တို့လည်း သင်္ဂါယနာတင်ဖို့လုံးပမ်းနေတယ်၊ အဲဒီတော့ အရှင်



ဘုရားက အနီးစပ်ဆုံးပုဂ္ဂိုလ်လည်းဖြစ်တဲ့အတွက် ဘုရားက ငါမရှိလို့ရှိရင် ဘယ်ပုဂ္ဂိုလ်ကို အကြီးအမှူးလုပ်ပြီး ကိုးကွယ်ရစ်လို့ မှာခဲ့ပါသတုံး ဒီလိုကိုး မေးတယ်။ ဘယ်ပုဂ္ဂိုလ်ကို အကြီးအကဲအမှူးပြုပြီး ကိုးကွယ်ရစ်လို့မှာခဲ့ပါသတုံးဆိုတော့ ရှင်အာနန္ဒာကဖြေတယ်၊ ဘယ်ပုဂ္ဂိုလ်မှ ကိုးကွယ်ရစ်လို့ မမှာပါဘူးကွာ၊ မှာရင် ရှင်အာနန္ဒာကို မှာရမှာ၊ ဘယ်ပုဂ္ဂိုလ်ကို ကိုးကွယ်ရစ်လို့တော့ မမှာဘူး။

ဒါဖြင့် အရှင်ဘုရားတို့ အစည်းမရှိတဲ့ဝါးလို့ ဗလဝကြဲပြီး သွားတော့မယ့် အခြေအနေမျိုး ရောက်နိုင်သလား၊ တိတ္ထိကြီးခြောက်ယောက်တို့ ဘုရား ပရိနိဗ္ဗာန်မစံခင်က သေကြတော့ သူတို့တပည့်တွေ ငြင်းကြ၊ ခုံကြ၊ သတ်ဖြတ်ကြနဲ့ ဝါးအစည်းပြေသလို အယူဝါဒတွေ ပြားကုန်ကြပြီ။

အရှင်ဘုရားတို့လည်း ဒီလိုမမှာခဲ့ဘူး၊ ဘယ်လူ့ကိုကြီးမှူးလို့၊ ကိုးကွယ်ရစ်ဆိုတဲ့ဉစ္စာ၊မမှာခဲ့ဘူးဆိုရင်ဖြင့် တိတ္ထိများ ကွဲသလို အရှင်ဘုရားတို့ သာသနာဟာလည်း အရှင်ဘုရားတို့ သာသနာက အင်မတန်ကျယ်တယ်၊ သာသနာတော်ကြီးက အရပ်ဒေသတွေ စုံနေတာပဲ၊ အဲဒီတော့ ဝါးစည်း ပြေသလိုဖြစ်များလား ဘုရားလို့ဆိုတော့ မှာခဲ့ပုံ အထူးရှိလို့ရှိလည်း တပည့်တော်များလည်း သိပါရစေတဲ့။

ပထမတစ်နံပါတ် သူမေးတာ၊ ပြန်ပြောပါဦးမယ်၊ ဝဿကာရပုဏ္ဏားက အရှင်ဘုရားတဲ့ အရှင်ဘုရားနဲ့ တပည့်တော်တွေ့တဲ့အချိန်မှာ လျှောက်ထားစရာရှိတာ၊ လျှောက်ထားပါရ

စေ၊ ဘုရားမရှိဘူး ပရိနိဗ္ဗာန်စံသွားပါပြီ တစ်နံပါတ်မေးလိုက်တယ်။ ဘုရားလိုသိတဲ့ ပုဂ္ဂိုလ် ဘုရားလို မဂ်ဖိုလ်သိတယ်၊ မဂ်ဖိုလ်၊ လိမ်မာတယ်၊ အလုံးစုံအကုန် သူသည် သဗ္ဗညုတဉာဏ်သဘောနဲ့ သိတဲ့ပုဂ္ဂိုလ် ဒီအထဲမှာ ကျန်ရစ်သလား တစ်နံပါတ်မေးတယ်၊ ဒါက တစ်နံပါတ်နော်။

တစ်နံပါတ်စမေးလိုက်တော့ ဒီလိုတော့ဖြင့် မရှိဘူးကွာလို့ ပြန်လိုက်တယ်၊ သူက ဘုရားလိုပုဂ္ဂိုလ်အတူရှိသေး သလားလို့ သူကမေးလိုက်တယ်၊ ဘုရား ပရိနိဗ္ဗာန်စံသွားတော့၊ ဘုရားလောက်ကြီးတဲ့ပုဂ္ဂိုလ် ဒီထဲမှာ ကျန်ရစ်တဲ့ သဘောများ၊ ပုဂ္ဂိုလ်များရှိပါသေးသလား၊ ရှင်အာနန္ဒာလို့ဆိုတော့ ဘုရားဆိုတာက နှစ် ဆူမှ မရှိပဲ တစ်ဆူပဲရှိတယ်။

စဉ်းစားကြည့်ပါ အင်ကြင်းပင်က ကိုင်းလာတဲ့အခါ မယ်တော်မာယာက အင်ကြင်းကိုင်းကို လှမ်းဆွဲပြီး၊ မတ်တပ် ဘုရားလောင်းကလေး ဖွားလျှင်ဖွားချင်း၊ တစ်ခါတည်း အရှေ့ဘက်လှည့်ပြီး

ဇေဋ္ဌောဟမသ္မိ၊ သေဋ္ဌော ဟမသ္မိ၊ လောကဿ၊

ငါ့ထက်မြက်တာမရှိ၊ ငါ့ထက်သိတာမရှိ၊ ငါဟာလောကအဆုံးသို့ ရောက်လာပြီးလို့ သူကိုယ်တိုင် (၇) လှမ်း လှမ်းပြီး သူနဲ့ တန်းတူမရှိဘူးလို့ ပြောခဲ့ပြီ။

ဇေဋ္ဌောဟမသ်ိလောကဿ၊ သေဋ္ဌောဟမသ္မိ လောကဿ၊ အဂ္ဂေါဟမသ်ိလောကဿ၊

လောကထဲ၊ ငါ့ထက်မြက်တဲ့ ငါထက်သိတဲ့ ပုဂ္ဂိုလ်မရှိ



ဘူးကွ၊ငါဟာ လောကအဆုံး ငါရောက်ပြီကွ၊ တစ်ခါတည်းကိုရှေ့ခုနစ်လှမ်း၊ သွားသေးတယ်၊ မွေးမွေးချင်း မွေးမွေးချင်းမထူးခြားဘူးလား။ အဲဒါဝဿကာရပုဏ္ဏားကမေးတော့ ဒကာဒကာမတွေ ဘုရားနဲ့ ဘုရားလို မဂ္ဂဝိဒူ ဟုတ်လား၊ မဂ်ကိုသိတဲ့ပုဂ္ဂိုလ် တစ် ခါတည်း အလုံးစုံတရားဓမ္မတွေ သဗ္ဗေနသဗ္ဗံ ဆိုတဲ့အတိုင်း အလုံးစုံတရားတွေကိုသိတဲ့ ပုဂ္ဂိုလ်ရှိပါသေးသလား တစ်နံပါတ်မေးလိုက်တော့၊ ရှင်အာနန္ဒာက မရှိဘူးကွာ၊ ဒီလိုတော့ မရှိဘူးပေါ့တဲ့။

တစ်နံပါတ်မရှိလို့ရှိရင် တပည့်တော် နှစ်နံပါတ်မေးတော့မှာပေါ့၊ ဘုရား ပရိနိဗ္ဗာန်စံသွားတာ (၇) ရက်ကျော်သွား တော့မစံမီက မင်းတို့ ဘယ်သူအကြီးအမှူးထားပြီး ခေါင်းဆောင်လုပ်ပြီးတော့ မင်းတို့ ကိုးကွယ်ဆည်းကပ်ရစ်ကြလို့ကော မှာခဲ့သလား နှစ်နံပါတ် မေးပြန်တယ်။

ဟာ ဒီလိုလည်း မမှာခဲ့ဘူးကွ၊ ဝဿကာရ ပုဏ္ဏားက ဒါဖြင့်ဘုရား၊ အရှင်ဘုရားတို့ ဘုရားလည်းမရှိဘူး၊ ဘုရားလိုသိတဲ့ပုဂ္ဂိုလ်လည်းမရှိတော့ ဘယ်သူ့ကို ဦးစီးခေါင်းဆောင်ထားပြီး ကိုးကွယ်ရစ်ကြဆိုတာလည်း မရှိတော့ ဒါ တပည့်တော် လျှောက်စရာစကားက မကုန်ဘူး၊ ဝဿကာရပုဏ္ဏားက လျှာရှည်ရှည်နဲ့ သူမေးတာ ဒါလည်းသူလျှောက်စရာပါပဲ။

ဒါဖြင့် အရှင်ဘုရားတို့ ဘာကို ကိုးကွယ်ဆည်းကပ်ပြီး ဘယ်သူပြောတာကို လိုက်နာကျင့်ကြံနေရမှာတုံး ဆိုတော့မှ ရှင်အာနန္ဒာက အေးဒီလိုမှာခဲ့တယ်ကွာတဲ့၊ ဓမ္မ[illegible]ဟာ မင်းတို့

"တရားသာကိုးကွယ်ရစ်ကြ" လို့ ဒီလိုမှာခဲ့တယ်၊ တရားအကြီးအမှူးထား၊ တရားကိုးကွယ်ရစ် လို့မှာခဲ့တယ်၊ ဘုရားမှာရစ်ခဲ့တဲ့ အဓိပ္ပာယ်။

သူလို ဘုရားတူလည်းမရှိဘူး၊ ပုဂ္ဂိုလ်ထဲက ဘယ်သူ့အကြီးအမှူးထားပြီး ကိုးကွယ်တယ်လို့ ညွှန်ပြခဲ့တာလည်း မရှိဘူး၊ ဘယ်လိုမှာခဲ့သတုန်းဆိုတော့ တရားသာလျှင် ကိုးကွယ်၊ ပုံးအောင်း၊ လဲလျောင်းပြီး နေရစ်ကြလို့ ဒီလိုမှာခဲ့တယ်ကွ၊ ဝဿကာရပုဏ္ဏားကမေးလို့ ရှင်အာနန္ဒာကဖြေတဲ့ဥစ္စာပဲ။

ဒါဖြင့် အရှင်ဘုရားတို့ ဒီတရားတွေက ငြင်းခုံစရာများ တော်တော်ကြာ အစွန်းအစတွေ ထွက်လာရင် ဒီပွဲကြီးဟာ ရန်ပွဲကြီးမဖြစ်နိုင်ဘူးလား၊ တိတ္ထိတပည့်သားမြေးတွေဖြင့် ကွဲကုန်ပြီ၊ ဂေါတမ တပည့်သားမြေးတွေလည်း တစ်ယောက် အယူအဆနဲ့ တစ်ယောက် အယူအဆမတူလို့ရှိရင် ကွဲကုန်ကြမယ်၊ ဒီနေရာ မရောက်ဘူးလားဆိုတော့ မရောက်ဘူးတဲ့။

ဘာကြောင့်လည်းဆိုလို့ရှိရင် သီလမှာလည်း ရှစ်ပါးဖြင့် ရှစ်ပါးချင်းအတူတူ ငါးပါးဖြင့် ငါးပါးချင်းအတူတူ သူရှောင်ရမှာနဲ့ ကိုယ်ရှောင်ရမှာနဲ့ အတူတူပဲကွတဲ့။ သမာဓိမှာလည်း သူကလုပ်မယ့်သမာဓိနဲ့ ကိုယ်ကလုပ် မယ့်သမာဓိကလည်း တည်ကြည်မှုရှိခြင်းအတူတူပဲကွတဲ့၊ အဲဒီတော့ နှစ်ဖက် ရန်ဖြစ်စရာရှိသေးရဲ့လား၊ တစ်ဖန် ပညာ စခန်းကို ကြည့်လိုက်ပြန်တော့လည်း သူလည်း တစ်ခါတည်း ဒုက္ခမြင်အောင်ကြည့်မှသာ ပညာစခန်းဆိုတဲ့ မဂ္ဂင်လမ်းကလည်း ပေါက်ရောက်



တယ်၊ အဲဒီတော့ ကြည့်ရတာခြင်း အတူ တူမို့ ဒါလည်း ပြားစရာမရှိဘူးတဲ့။

ဒီတရားတွေ ကိုးကွယ်ဆည်းကပ်ခြင်းကြောင့် ဒို့မှာ ကွဲစရာ ရှစရာ မရှိဘူးဟော့၊ ဟောပြီ ရှင်အာနန္ဒာက ပြောပြီ၊ ကျုပ်တို့ မှတ်စရာက သြော် - ဘုရားပရိနိဗ္ဗာန်စံသွားပြီ၊ ဘယ်သူ့ကို အကြီးအမှူးထားပြီး ကိုးကွယ်ရစ်လို့ မမှာခဲ့ပါ၊ တရားသာလျှင် ကိုးကွယ်ရာ ဆည်းကပ်ရာရှိတော့တယ်လို့ မှာခဲ့ပါတယ်။ ရှင်းတော့ ခင်ဗျားတို့ အစုအားထုတ်နေတာ တရားကိုးကွယ်နေတာဆိုတာ ရှင်းကြပလား၊ ခင်ဗျားတို့ ဖြစ်ပျက်၊ ဝေဒနာတွေ၏ ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခကို ရှုပြီးနေတော့ ဝမ်းထဲမှာ ဝိပဿနာ သမ္မာဒိဋ္ဌိတွေရောက်နေတယ်၊ အမှန်မြင်တာကိုး။

ဝိပဿနာသမ္မာဒိဋ္ဌိ၊ အမှန်မြင်က ရောက်နေတော့ မဂ္ဂင် ခန္ဓာကိုယ်ထဲရောက်အောင်လို့ ဓမ္မစေတီဖြစ်အောင်လို့ ဝမ်းထဲဓါတုစေတီတော်၊ ဓမ္မတော်ဆိုတဲ့ ပညာတွေရောက်အောင်လို့ တပည့်တော်လုပ်နေတယ်၊ ခင်ဗျားတို့ ဒီအလုပ်က ကိုယ်ထဲရောက်တဲ့အလုပ်ဆိုတာဖြင့် သေချာပြီ။ ကိုယ်ထဲရောက်တဲ့အလုပ်ဆိုတော့ ဒီအလုပ်ထက် အဖိုးတန်တာ ရှိသေးသလား၊ ကိုယ်ကိုးကွယ်တာက ကိုယ်ရှုနေတာပါ၊ ဘုရားရှေ့မှာ ရှိခိုးတာမဟုတ်ဘူး၊ ဝမ်းထဲမှာကို တစ်ခါတည်း အမြဲတမ်း ဆည်းကပ်ထားတာပဲ။

ဟိုနေရာပြောင်းလိုက်ပြန်လည်း အင်း - ဖြစ်ဒုက္ခ ပျက်ဒုက္ခလေးပဲ ဟိုဟာလေးမြင်လိုက်ပြန်ရော ဖြစ်ဒုက္ခ၊ ပျက်

ဒုက္ခပါ။ အဲဒီမြင်တဲ့ဉာဏ်ကလေး ဝမ်းထဲမှာ ကိန်းနေပါတယ်၊ အဲဒီတော့ တရားသာလျှင် ကိုးကွယ်ပုန်းအောင်းနေကြတာပဲ။ ဘုရားမှာခဲ့တာနဲ့ ကိုက်ပါတယ်၊ ဘုရားရှိနိုးနေတာကမှ တစ်နေ့လုံးထိုင် ညောင်းပြီးနေတာ တစ်နေ့လုံးရှိခိုးပါဆိုတော့ တော်တော့ လူရှိမခိုးနိုင်ဘူးနော်။

အေး ဝိပဿနာအလုပ်ကြီး တကယ်တမ်း ကြိုးစားနေတဲ့ ပုဂ္ဂိုလ်ကတော့ မြင်ရာ၊ တွေ့ရာကို ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခရှုနေမယ်ဆိုရင် မြင်ရာ၊ တွေ့ရာတွေကို မြင်တဲ့ဉာဏ်ကလေးက ဝမ်းထဲကိန်းနေပါတယ်၊ အဲဒါ ဝမ်းထဲကိန်းနေတော့ သူ့ခန္ဓာထဲမှာ သူ့အမြဲဆည်းကပ်ကိုးကွယ် လေးစားထားတယ်။

ရှင်အာနန္ဒာကလည်း တရားသာလျှင် ကိုးကွယ် ဆည်းကပ်ရမယ်လို့ မှာခဲ့တယ်ကွဆိုတော့ လုပ်နေတဲ့အလုပ်ကလည်း တရားကိုးကွယ်ဆည်းကပ်တဲ့အလုပ်ဖြစ်နေသော ကြောင့် သမ္မာဒိဋ္ဌိအလုပ် အလုပ်မှန်ကြီးဖြစ်တယ်၊ သမ္မာက မှန်တာ၊ ဒိဋ္ဌိကမြင်တာ၊ အမှန်မြင်ပြီး ၊ အမှန်လုပ်နေတာ ဖြစ်တယ်၊ ကျုပ်တို့ကိုးကွယ်တာဖြင့် ကိုးကွယ်မှန်ပဲလို့ ဆုံးဖြတ်ချက်ချ။ တရားကိုးကွယ်နေကြတယ်ဆိုတာ ဒီအတိုင်းမှတ်ပါ။ ဒါနဲ့ တရားကိုးကွယ်ပါဆိုတော့၊ ရှေးဦးစွာ သီလတရား၊ သီလဝိသုဒ္ဓိ၊ တော်တော်ကြာတော့ ကွာတဲ့၊ စိတ္တဝိသုဒ္ဓိဆိုတဲ့၊ သမထ တည်ကြည်အောင်လုပ်ရတယ်၊ ပြီးတော့ ဒိဋ္ဌိဝိသုဒ္ဓိဆို တဲ့ ဝေဒနာ၊ ဝေဒနာမှန်းသိရတယ်၊ ဒိဋ္ဌိဝိသုဒ္ဓိ။

ဝေဒနာ၊ ဝေဒနာတွေ အာရုံ့ဒွါရကြောင့် ဖြစ်တယ်ဆိုတာ



လည်း ၊ ကင်္ခါဝိတရဏ၊ ဝိသုဒ္ဓိ၊ အဲဒီတော့ ဒီ့မှာ သူ့အဆင့်အတန်း၊ သူ့ အဆင့်အတန်းနဲ့ သွားတာကိုသာ ကြည့်ပြီး တရားတွေက ဒီလို ကိုးကွယ်စရာတွေလည်း ရှိနေတယ်ကွတဲ့။ ပြီးတော့မှ ဖြစ်ပျက်တွေရှုလို့၊ ပြီးတော့မှ ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခတွေရှုလို့၊ ပြီးတော့မှ ဒုက္ခ၏ဆုံးရာကိုမြင်လို့ အဲဒီလို လေးစားတဲ့ပုဂ္ဂိုလ်ကျတော့ ဒီတရားအကြောင်းရင်းခံပြီး ဒီပုဂ္ဂိုလ်တော့ ဒီ့ကကိုးကွယ်မယ်၊ ပုဂ္ဂိုလ်ဆိုပေမဲ့ ဒီ့ကပုဂ္ဂိုလ်တိုင်းကို ကိုးကွယ်တာမဟုတ်ဘူးတဲ့။

ဒီတရားကို ဟုတ်တိုင်းမှန်စွာ အားထုတ်တဲ့ပုဂ္ဂိုလ်ကျတော့ ဒီပုဂ္ဂိုလ်ကို ငယ်တယ်၊ ကြီးတယ်မရွေးဘူး၊ ကိုးကွယ်ပြန်တာပဲတဲ့၊ ဘာပြုလို့ ကိုးကွယ်သတုံးဆိုတော့၊ တရားကိုးကွယ်တာ ရိုပ်မိပလား။ ဘုရားက ဘယ်လိုမှာခဲ့သတုံး၊ အေးကရား ကိုးကွယ် ဆည်းကပ်ကြ၊ တရားသာပုန်းအောင်း၊ လဲလျောင်းရာပဲဆိုတာ ဟောပါတယ်၊ အဲဒါ တရားအားထုတ်ရင် မပျင်းကြပါနဲ့။

ဩော် ဘုရားသခင်ကိုယ်တော်မြတ်ကြီး၊ ဟောမှု ပြောမှု ရှိပေလို့ သဗ္ဗညုတဉာဏ်တည်းဟူသော အသိဉာဏ်နဲ့ ဟောခဲ့၊ ပြောခဲ့ပေလို့ ဒီ့ကျင့်ရ၊ ကြံရပေတယ်ဆိုတော့ ကျုပ်တို့လုပ်နေတဲ့အလုပ်ဟာ ဘုရားပါရှိခိုးပြီးသား၊ တစ်ခါတည်းဖြစ်သွားတယ်၊ ဘုရားပါ ကြည်ညိုလေးစားပြီးသား၊ အဖြစ်ကို တစ်ခါတည်း ရောက်ပါတယ်။

အဲဒါကြောင့် တရားသိမှ ဘုရားသိတယ်ဆိုတာလည်း

ဒီမှာပေါ်ပြန်တာပဲ၊ ဒါနဲ့ပဲ ဝဿကာရ ပုဏ္ဏားကလည်း လျှာရှည်ပြန်တော့ ဆက်မေးပြန်တာပဲ၊ အရှင်ဘုရားတဲ့ တပည့်တော်ကမေးလို့ အရှင်ဘုရားဖြေတာ တရားကိုးကွယ်ဆည်းကပ်ရစ်ကြဆိုတော့ တရားရှိတဲ့ပုဂ္ဂိုလ်ကို ကိုးကွယ်ရုံရှိတော့တာပဲ ၊ ဒါဖြင့် အရှင်ဘုရားတို့ သာသနာကတော့ ကွဲစရာမရှိတော့ဘူး၊ ဒီလိုသူက ယူလိုက်တယ်။

သို့သော် ဘုရားသက်တော်ထင်ရှားရှိတုန်းက တပည့်တော်နဲ့ ဝေသာလီပြည်မှာ တွေ့ပါတယ်ဘုရား၊ တွေ့တဲ့အခါကျတော့ မြတ်စွာဘုရားသခင်ကိုယ်တော်မြတ်ကြီးက ဈာန်တရားကို တယ်လည်းချီးမွမ်းပါတယ်၊ သူကိုယ်တိုင်လည်း အားလည်းထုတ်တယ်၊ အဲဒါကြောင့် တပည့်တော်က ဈာန်တရားကို သိပ်ကျေနပ်ပါတယ်၊ ပုဏ္ဏားက သမထကို ကျေနပ်နေတယ်။ အရှင်ဘုရားက တပည့်တော်တို့ထက် နီးစပ်ပါတယ်၊ တပည့်တော်တွေ့တုန်းကဖြင့် ဈာန်တရားချီးမွမ်းတယ်၊ သူသွားကြည့်ပြန်လည်း ဈာန်တရားအားထုတ်နေတယ်၊ အဲဒါတွေချည်း၊ တွေ့ရတော့ ဈာန်ကိုသိပ်ပြီး နှစ်သက်ပုံရတယ်ဘုရား။ အဲဒီတော့ ရှင်အာနန္ဒာက ငါတို့ပြောထားတာရှိတယ်ကွ ငါတို့ကို ပြောထားခဲ့တာရှိတယ်၊ ရှောင်ကြဉ်ရမယ့်ဈာန်၊ မရှောင်ကြဉ်ရမယ့် ဈာန်ရယ်လို့ နှစ်မျိုးရှိတယ်၊ ဝဿကာရပုဏ္ဏားကြီး၊ ရှောင်ကြဉ်ရမယ့်ဈာန်က တစ်မျိုး၊ မရှောင်ကြဉ်ရမယ့် ဈာန်က တစ်မျိုးပါပဲ။

ဈာန်ဆိုတာ ရှေ့တစ်ခုထားပြီး စိုက်စိုက်စူးစူး ရှုရပါတယ်၊



အာနပါနဖြင့် လေကိုပဲ ဒါမပျောက်အောင် ရှုနေရတာပဲ၊ ပထဝီကသိုဏ်းဆိုရင်လည်း၊ ပထဝီမြေလေးရှေ့မှာ၊ ဝိုင်းထားပြီး မြေမှုန့်ကလေးကို ပြောင်အောင်လုပ်ထားပြီး စကောလောက်ရှိတဲ့အဝိုင်းကိုပထဝီ ပထဝီဆိုပြီးမပျောက်အောင်ရှုနေရတယ်။

အာကာသဆိုရင်လည်း ထရံမှာ အဝိုင်းကလေး ဖောက်ထားပြီး ဒါကလေး ကြည့်နေရမယ်၊ အာကာသော အာကာသော အာကာသော ကောင်းကင်၊ ကောင်းကင်၊ ကောင်းကင်ဆိုပြီး ကြည့်နေရတယ်။ အဲဒါတွေ ဈာန်လမ်းဆိုတာ တစ်ခုတည်းသော အာရုံရှုတာပဲကွာတဲ့၊ ဒီလိုရှုတဲ့ဈာန်ပေမဲ့၊ ဘုရားက ပယ်ရမယ့်ဈာန်၊ ပွားရမယ့်ဈာန်၊ အားထုတ်ရမယ့်ဈာန်၊ ဈာန်ပေမယ့်လို့ တထစ်ချမှတ်မထားနဲ့ဦး။

ဈာန်ကို တထစ်ချမှတ်လို့မရဘူးတဲ့၊ နီဝရဏတရား၊ လောဘ၊ ဒေါသ၊ မောဟ၊ ဥဒ္ဓစ္စ၊ မာန၊ ဝိစိကိစ္ဆာ၊ သေတဲ့ဈာန်လည်းရှိတယ်၊ ဒါတွေပွားတဲ့ ဈာန်လည်းရှိတယ်၊ ဈာန်တွေကို ဝဿကာရ ပုဏ္ဏားက မေးလို့ ရှင်အာနန္ဒာက ဖြေရရှာတယ်။ ကိုယ့်သားသမီးလေးတွေကို ဒကာ ဒကာမတွေက ကြည့်နေတော့၊ စိုက်စိုက်စူးစူး မျက်လုံးထဲမှာ မြင်နေပါတယ်၊ အဲဒါဈာန်ပဲ၊ စိတ်ကလေးက ကိုယ့်သားသမီးတွေ ကြည့်နေတဲ့အခါ ဘယ်များသွားသေးသလဲ။

မျက်လုံးလေးကြည့်လိုက်၊ နှုတ်ခမ်းလေးကြည့်လိုက်၊ ဒီနေရာ အနာရှိသလား၊ ဒီနေရာ ဝေဒနာရှိသလား၊ ဒီနေရာကလေး ဘာများဖြစ်ဦးမှာတုံး၊ အစရှိသဖြင့် မျက်နှာလေး

ပေါင်ပေါ်တင်ပြီး ရှုးရှုးစိုက်စိုက်ကြည့်နေတဲ့အခါ တခြားဆီကို အာရုံပြေးသလား၊ အဲဒါဈာန်ပဲကွတဲ့။ စိုက်စိုက်ရှုးရှုး ကြည့်နေရင် ဈာန်ပဲတဲ့၊ အဲဒီဈာန်ကတော့ ကာမဆန္ဒ နီဝရဏဆိုတဲ့ လောဘတရားတွေက ပွားတောင် လာသေးတယ်။

ဈာန်တော့ ဈာန်ပဲကွတဲ့ ကာမဆန္ဒ နီဝရဏဆိုတဲ့လောဘတွေ ပွားလာပါတယ်၊ အဲဒီဈာန်မျိုးကျတော့ ရှောင်ကြည်ရမယ့် ဈာန်ပေါ့တဲ့။ ရှောင်ကြည်ရမယ့်ဈာန်သည်ကိုယ့်စိန် ကလေးကြည့်ပြီး ကိုယ့်ပတ္တမြားလေးကြည့်ပြီးနေတဲ့ဈာန် အဲဒီဈာန်မျိုးကျတော့ ဘုရားက ရှောင်ကြည်ရမယ့်ဈာန်တဲ့၊ ဒီလောဘမလာတဲ့ အာရုံမျိုးကြတော့ဖြင့် အဲဒီဈာန်ကို ဘုရားက ချီးမွမ်းတယ်။

ဒီလောဘ သေအောင် ရှုနိုင်တဲ့ဈာန်မျိုးကျတော့ ချီးမွမ်း တယ်၊ လောဘပွားလာတဲ့ ဈာန်မျိုးကျတော့ ပယ်ရပါမယ်၊ ဈာန်နှစ်မျိုးရှိတယ်လို့ ဝဿကာရပုဏ္ဏားမှတ်ပါ။ ဈာန်တရားသည် တစ်ခုတည်းသော အာရုံကြောင့် ခုနက မြေလေးဝိုင်းပြီး ပထဝီ၊ ပထဝီလို့ ဆုတောင်းတာများ၍ ဈာန်ရတယ်ဆိုဦးတော့ နီဝရဏ တရားဆိုတဲ့ လောဘ၊ ဒေါသ၊ မောဟ ဣဿာ၊ မစ္ဆရိယ၊ မာန၊ ဒိဋ္ဌိ၊ ဝိစိကိစ္ဆာ၊ ဥဒ္ဓစ္စက ဝမ်းထဲ မှာ အပြည့်ရှိတယ်။

ဒီလိုဈာန်မျိုးကျပြန်တော့လည်း ဝမ်းထဲမှာ နီဝရဏ တရား အပြည့်ရှိနေတယ်ကွတဲ့၊ ပြင်ဘက်က ဈာန်ရဲ့ရှုခြင်း ကြောင့် ဈာန်တော့ရပါတယ်တဲ့၊ အတွင်းမှာ မြုပ်နေတဲ့၊ အနုသယဆိုတဲ့ နီဝရဏတရားတွေက မသေဘူးကွတဲ့၊ အဲဒါ မျိုးလည်း ဘုရားသခင်ကိုယ်တော်မြတ်ကြီး ဈာန်လို့တော့ ခေါ်ရဲ့



မချီးမွမ်းသေးဘူး၊ နီဝရဏ မကုန်ဘူး။ ဒါဖြင့် ကိုယ့်သားသမီး ကြည့်တဲ့ ဈာန်မျိုးလည်း နီဝရဏ ဖြစ်လို့ ပယ်ရမယ်၊ ဒို့ပြင် လောကီဈာန်တွေကိုလည်း နီဝရဏကို ဆုံးအောင် မလုပ်နိုင် လို့ရှိရင်ဖြင့် ဒီဥစ္စာဆုံးအောင် လိုက်လိုက်ပါဦး။

လုပ်တော့လုပ်ပ့ါဗျာ၊ ဒီတွင်ရပ်မနေနဲ့ဆိုတဲ့ အဓိပ္ပာယ်ပါ ပဲ၊ အေး ဒါကြောင့်၊ ဝိပဿနာမှလည်း ဆုံးတယ်၊ လောဘ၊ ဒေါသ၊ မောဟ၊ မသေတဲ့ ဈာန်မျိုးဟူသ၍ ဘုရားချီးမွမ်းတော် မမူဘူးတဲ့၊ လောဘ၊ ဒေါသ ငုပ်နေတဲ့ဈာန်မျိုးကို ဘုရားချီးမွမ်း ရဲ့လား၊ ဒါဖြင့် အမြစ်ပြတ်အောင် ရှုနိုင်တဲ့ဈာန်မျိုးဆိုမှ ချီးမွမ်း တယ်ပေါ့တဲ့၊ ရှင်အာနန္ဒာက ဖြေတာ။

အဲဒါကြောင့် ခင်ဗျားတို့ ရှုနေတဲ့ဥစ္စာလည်း ဈာန်ပါပဲ၊ ဘာကြောင့်လဲဆိုတော့ အပျက်လာတိုင်း ကြည့်ရသေးရဲ့လား တစ်ခါတစ်ခါလဲ မိအောင်ရှုနေရတာ၊ ဝေဒနာလည်း ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခ မရှုရဘူးလား၊ မိအောင်ရှုရပါတယ်၊ သညာလာရင် ကော ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခ မိအောင်ရှုရပါတယ်၊ စိတ်လာပြန် တော့ကော မိအောင်ရှုရပါတယ်၊ ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခ မိအောင် မရှုရဘူးလား။

အေး မိမိရရဖြစ်အောင်ဖြင့် ရှုရပါတယ်၊ ဘယ်မှမပြေး အောင်လည်း မရှုရဘူးလား၊ ဒါကတော့ ဈာန်ရော မဂ်ရော၊ တစ်ခါတည်းပါသွားတယ်၊ ရှုးရှုးစိုက်စိုက်ကြည့်တာက ဈာန်၊ ကိလေသာ၊ သေအောင်သတ်တာက ဉာဏ်၊ ဈာန်ရော ဉာဏ် ရော တွဲသွားတယ်။ အခု ဒကာ ဒကာမတွေ ဘုန်းကြီးပေးနေ

တဲ့ အလုပ်က ရှာန်ရော ဉာဏ်ရော တွဲသွားပါတယ်၊ အဲဒါကြောင့် ရှာန်လမ်း သီးသန့်မပါတော့ဘူး၊ ရှာန်ရော ဉာဏ်ရော တစ်ခါတည်း ပါပါတယ်၊ အေး ရှာန်ရော ဉာဏ်ရော ပါသွားတော့မှ သူ့ ကျေးဇူး ခံစားရတာ ပေါ်လာတယ်။

ရှာန်က အာရုံကို စိုက်စိုက် စူးစူးကြည့်တော့၊ ရှာန်က သစ်ပင်တစ်ပင်၊ အပေါ်ရုံပြတ်အောင် ဖြတ်လိုက်တယ်၊ အမြစ်တွေ ဥတွေကတော့ ကျန်ရစ်ပါတယ်၊ ဉာဏ်က အမြစ်တူးပစ်လိုက်တဲ့ ဘာမှ မကျန်ပါလို့မှတ်။ ဒီခန္ဓာပင်ကြီး၊ အဝိဇ္ဇာ၊ တဏှာ၊ ဥတွေလဲပျောက်၊ လူ့ ကောင်း နတ်ကောင်း ဗြဟ္မာကောင်းဆိုတဲ့ အပင်တွေလည်း ပျောက်ပါတယ်၊ အဲဒီတော့ အခု ပေးနေတဲ့နည်းက -

အဉ္ဈတ္တာဒွေ၊ ဓမ္မာ ယုဂနဒ္ဓါပဝတ္တန္တိ၊ သမထောစ ဝိပဿနာစ၊ ဝိပဿနာရှိရာဌာန၌ ဒွေး = နှစ်ပါးကုန်သော၊ ဓမ္မာ = တရားတို့သည်၊ ပဝတ္တန္တိ = ဖြစ်ကုန်၏။ သမထောစ = စိုက်စိုက်စူးစူး၊ ရှုနေတဲ့ သမထသည်လည်းကောင်း၊ ဝိပဿနာစ = နိဝရဏ တရားတွေကို သတ်နေသော ဝိပဿနာသည်လည်းကောင်း၊ ယုဂနဒ္ဓါ = အစုံအားဖြင့် (ဝါ) တွဲ၍ ပဝတ္တန္တိ = ဖြစ်ကြကုန်၏၊ ခင်ဗျားတို့လုပ်နေတဲ့အလုပ်က သမထ၊ ဝိပဿနာတွဲပြီး ပါသွားတဲ့အလုပ်ပါပဲနော်။

သမထက လူ့ကောင်း နတ်ကောင်း အမည်သစ်ပင်မှာ အမြစ်နားက ကပ်ဖြတ်လိုက်တယ်၊ ဥရှိတဲ့သစ်ပင်မှာ သို့သော် မိုးကျပြန်တော့ ပြန်ပေါက်တယ်၊ ဝိပဿနာက ဥပါတူးတယ်၊



ခင်ဗျားတို့တွဲလုပ်တဲ့အလုပ်ကဖြင့် ပင်စည်လည်းပြုတ်၊ ဥလဲပဲပြုတ်၊ နှစ်ခုစလုံး မပြုတ်ဘူးလား။

ဒါဖြင့် အဝိဇ္ဇာ၊ တဏှာနဲ့တူတဲ့ လူ့ကောင်း နတ်ကောင်း ဗြဟ္မာကောင်း၏ ဥတွေကော ကုန်ပါတယ်၊ လူ့ကောင်း နတ်ကောင်း ဗြဟ္မာကောင်းတည်းဟူသော ပင်စည်၊ ခက်မ၊ ဒုက္ခသစ္စာကြီးကော ပြောင်ပါတယ်၊ သမာဓိမဂ္ဂင်နဲ့ ပညာမဂ္ဂင် တွဲရက်ကြီးပါတယ်။ သမာဓိမဂ္ဂင်နဲ့ ပညာမဂ္ဂင် တွဲရက်၊ တွဲရက်လာတယ်ဆိုတော့ သမထအထူးလုပ်စရာမလိုတော့ဘူး၊ သမထနဲ့ဝိပဿနာတွဲရက်ချည်းဖြစ်နေတယ်ဆိုတော့သံသယဖြစ်စရာ မလိုတော့ပါဘူး။

ပေါ်တိုင်း ပေါ်တိုင်း ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခတွေကို ဒကာဒကာမတွေက ဉာဏ်နဲ့ရှု ရှုပြီးနေတော့ စိုက်စိုက်စူးစူးရှုတာက ရှာန်ပေါ့ဗျာ၊ စိုက်စိုက်စူးစူး အာရုံတည်ထားတာက ရှာန်ကြောင့်နော်၊သတိတို့ သမာဓိတို့ ဝီရိယတို့ပေါ့ဗျာ။

## သမထက ရှာန်၊ ဝိပဿနာက ဉာဏ်

ဒါလေးတွေ ဒုက္ခလေးတွေပဲလို့ မြင်နေတာက ဉာဏ်ပေါ့ဗျာ၊ စိုက်စိုက်စူးစူးကြည့်တာက ရှာန်ပါ၊ ဒါလေးတွေ ဒုက္ခလေးတွေပဲလို့ သိတာက ဉာဏ်ပါ၊ အဲဒီရှာန်နဲ့ဉာဏ်နဲ့ တွဲသွားတယ်၊ ဉာဏ်က ဝိပဿနာ ရှာန်က သမထလို့မှတ်။

ဒီမှာနာရတဲ့တရား၊ ဒီက နည်းနဲ့အားထုတ်တဲ့ ဒကာဒကာမတွေကျတော့ ရှာန်လမ်း၊ ဉာဏ်လမ်း တစ်ခါတည်း တွဲ

ပြီးအားထုတ်တာလို့ သိပ်ကောင်းပါတယ်လို့ သေသေချာချာ ဆုံးဖြတ်ချက်ချပါ။ အဲဒီတော့ နီဝရဏဆိုတဲ့ လောဘ၊ ဒေါသ၊ မောဟ မပါတော့ပါဘူး၊ အောင်းနေနိုင်သေးရဲ့လား၊ ဈာန်လမ်းချည်းအားထုတ်မယ်ဆိုရင် နီဝရဏက ဝမ်းထဲမှာ ဥသဘောနဲ့ အောင်းနေတယ်၊ အမြစ်မတူးနိုင်ဘူး၊ ဉာဏ်ပါလာတော့မှ အမြစ်တူး နိုင်ပါတယ်၊ မကွာဘူးလား။

ဝဿကာရ ပုဏ္ဏားမေးလိုရင်းက ဒါမဟုတ်ဘူး၊ ဘုရားသခင်ကိုယ်တော်မြတ်ကြီးက ဈာန်ကိုလည်း ချီးမွမ်းတော်မူတယ်၊ ဈာန်ကိုလည်း သူကိုယ်တိုင်ဝင်စားတော်မူတယ်၊ အဲဒီတော့ ဈာန်လမ်းဟာ အတော်အရေးကြီးပုံရတယ်ဘုရားလို့ သူကလျှောက်တယ်။ အဲဒီမှာ ရှင်အာနန္ဒာက၊ ဈာန်လမ်းပေမဲ့ မချီးမွမ်းတဲ့ ဈာန်၊ ချီးမွမ်းတဲ့ ဈာန် နှစ်မျိုးရှိတယ်၊ နီဝရဏဆိုတဲ့ လောဘ၊ ဒေါသ၊ မောဟ သေအောင်လုပ်တဲ့ ဈာန်မျိုးကျတော့ ဘုရား ချီးမွမ်းတယ်၊ ဒါတွေအောင်းနေတဲ့ ဈာန်မျိုးကျတော့ မချီးမွမ်းပါဘူးတဲ့။

အဲဒီကဲ့သို့ ရှင်အာနန္ဒာက ဖြေလိုက်တော့မှ၊ အမလေး သဘောကျတယ်ဘုရားတဲ့၊ သူက ဘုရားလည်း ချီးမွမ်းတယ်၊ ဘုရားလည်း ကိုယ်တိုင်ဝင်စားတယ်ဆိုတော့ အင်း - ဒီဈာန် အလုပ်ကို ဘုရားဖြစ်တဲ့အလုပ်လို့မှတ်နေတယ်တဲ့၊ မဟုတ်ဘူးကွတဲ့။ ဘုရားသခင်ကိုယ်တော်မြတ်ကြီးက ဝင်စားတယ်၊ ချီးမွမ်းတယ်ဆိုတော့ သူမှဝိပဿနာလမ်း ဈာန်လမ်း၊ တွဲတက်ခဲ့လို့ ကိလေသာက သတ်စရာမရှိတော့ဘူး၊ ဈာန်ဝင်စားနေတာ မင်းတို့



ပုထုဇဉ်တွေက ဒီကစရမယ်၊ ဝဿကာရပုဏ္ဏားကို ရှင်အာနန္ဒာက ဘုရားဟောတော်မူတဲ့ နောက်ဆက်တွဲအဖြေနဲ့ ဖြေလိုက်တာ ရှင်းပါပြီနော်။

ဈာန်လမ်း ဉာဏ်လမ်းကိုဖြင့် မခွဲပါနဲ့၊ အဲ ဈာန်လမ်း ဉာဏ်လမ်းကို ဘယ်ကစမခွဲရမတုံးဆိုတော့ ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခ မြင်သည်ကစ၍ မခွဲနဲ့၊ ဈာန်လမ်း ဉာဏ်လမ်းခွဲဖို့မလိုတော့ဘူး။ တစ်ခါ ရုပ်နာမ်ခွဲနေတုန်းကလဲ ဈာန်လမ်းမပါတော့ဘူး၊ ဉာဏ်လမ်းပဲ ရုပ်နာမ်ခွဲတာလည်း ဉာဏ်ပဲ၊ တစ်ခါအကြောင်း အကျိုးခွဲတာလည်း ဉာဏ်ပဲ၊ အေး အဲဒီအထဲ ဈာန်ကတော့ ငုပ်ရက် ငုပ်ရက်ပါနေတယ်၊ ဉာဏ်ကချည်း ဦးစီးနေတယ်။

တစ်ခါ ဖြစ်ပျက်တွေကြည့်ပြန်တော့ ဉာဏ်ကပဲ ဦးစီးနေပါတယ်၊ ဈာန်က မပါဘဲနေသလား၊ ဈာန်ကလည်း တွဲရက်ပဲ၊ သို့သော် ခေါင်းဆောင်က ဉာဏ်ဖြစ်နေပါတယ်၊ ဝိပဿနာရှုတဲ့ပုဂ္ဂိုလ်ကျတော့ ဉာဏ်ကဦးစီးပြီး သမထဆိုတဲ့ ဈာန်က နောက်လိုက်ဖြစ်နေတယ်၊ ဘာတုံး သမာဓိတို့၊ ဝီရိယတို့၊ သတိတို့ ဒါတွေဟာ ဈာန်တွေကိုးဗျ၊ ဒါတွေက နောက်လိုက်ဖြစ်ပြီး ပညာကရှေ့ကျနေတယ်။

ဒါကြောင့် ခင်ဗျားတို့သည် ကိုယ်ပိုင်ဉာဏ်နဲ့ ဆွေးနွေးပြီး စဉ်းစားလို့ရှိရင် အင်း - တပည့်တော်တို့ အပျက်ကလေးတွေ မြင်တယ်၊ ဒီအပျက်ကလေးတွေဟာလည်း တကယ့်ဒုက္ခကလေးတွေပဲ၊ တယ်ကြီးတဲ့ဒုက္ခပါလားလို့မြင်လို့ရှိရင် သတိ၊ ဝီရိယ၊ သမာဓိတို့ကြောင့် အမှန်မြင်တဲ့ သမ္မာဒိဋ္ဌိ၊ သမ္မာသင်္ကပ္ပ တွဲ

လျက်ပါသောကြောင့် ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခ လို့မြင်တယ်။

ဒါဖြင့် ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခလို့မြင်၊ ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခဆီမှ တစ်ပါး ဘယ်ကိုမှမပြေးပဲနေတာက သတိ၊ ဝီရိယ၊ သမာဓိတို့ကြောင့်ဖြစ်တယ်၊ ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခမြင်တာက သမ္မာဒိဋ္ဌိ၊ သမ္မာသင်္ကပ္ပကြောင့်ဖြစ်တယ်။ အာရုံတစ်ခုကို ရှုတိုင်း ရှုတိုင်း ဒီငါးခုသေချာနေတယ်၊ ငါးခုသေချာနေတဲ့အတွက် နိဝရဏတရားဆိုတဲ့ လောဘ၊ ဒေါသ၊ မောဟတရားတွေ ကပ်နိုင်သေးရဲ့လား၊ အဲဒီရောန်မျိုးကျတော့ ဘုရားချီးမွမ်းတယ်ဟော့၊ ဝဿကာရပုဏ္ဏား နိဝရဏ သေတယ်ကွတဲ့ လောဘ၊ ဒေါသ၊ မောဟသေတဲ့တရားတွေကျတော့ ဘုရားက အလွန်ချီးမွမ်းပေါ့ကွာ၊ အဲဒီလိုမှတ်လိုက်ပါဦးတဲ့။

အေး - ဒါကြောင့် ဥပရိပဏ္ဏာသပါဠိတော်မှာ ပါတယ်၊ ဝဿကာရပုဏ္ဏားနဲ့ ရှင်အာနန္ဒာ၊ ဘုရားပရိနိဗ္ဗာန်စံပြီးစ၊ တွေ့ကျတော့ ရှေးဦးစွာ ဘုရားသာသနာတော်ကြီးကို တိတ္ထိတွေ ကွဲထွက်သွားတာမြင်လို့ ဒီအမေးထွက်လာတယ်။

ဒီအမေးထွက်လာတော့ ဒီအဖြေတွေကို ဝိပဿနာ ဉာဏ်ရောက်အောင် ရှင်အာနန္ဒာက ဖြေချတယ်၊ ဖြေပြီး ဒီအဖြေတွေကို မှန်မှန်ရည်ရည်နဲ့ပဲပေးတယ်၊ ဒါကြောင့် အခုလုပ်နေတဲ့အလုပ်သည် သမထ၊ ဝိပဿနာ၊ တွဲရက်အလုပ်ဆိုတာ ဆုံးဖြတ်ချက်ချပါ။ ဖြစ်ပျက်လာတိုင်း ဉာဏ်အောက်ချည်း ရောက်နေတာပဲဆိုရင်ဖြင့် ဘယ်သူထိန်းထားတာလဲ သတိ၊ ဝီရိယ၊ သမာဓိဆိုတဲ့ သမထကထိန်းထားတာ၊ ဒါလေး



တွေ ဉာဏ်အောက် ရောက်လာလို့ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခပဲလို့ မြင်တာက ပညာက မြင်တာပဲ။

ဒါဖြင့် ဒီပညာလေးဘယ်မှ မပြေးရအောင် ထိန်းထားတာက သမာဓိ၊ ဒီပညာလေးက အမှန်အကန်မြင်တာက ပညာ၊ ဒီအမှန်အကန်မြင်တဲ့ ပညာကို ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခ၊ အပေါ်မှ တစ်ပါး ဘယ်မှမသွားရအောင် ထိန်းထားတာက သမာဓိ၊ ဒီပညာကိုလည်း အထိန်းပါရသေးတယ်။ လောကီ ဥပမာကိုလည်း ပြောပါမယ်၊ မြားပစ်တဲ့လူ သေနတ်ပစ်တဲ့လူ ဒီသားကောင်ဆိုတဲ့ ငှက်နဲ့၊ သေနတ် အဖျားမှာရှိတဲ့ ချိန်စရာလေးနဲ့ တည့်အောင်လုပ်ရတာကတော့ သမာဓိအလုပ်၊ သို့သော် ဒီသမာဓိက တည့်အောင်သာ လုပ်တယ် ငှက်သေအောင်တော့ မပစ်နိုင်ဘူး။ ပညာနဲ့တူတဲ့ ကျည်ဆံတို့ ဖြုတ်တဲ့လက်တို့ကမှ ငှက်သေအောင်ပစ်နိုင်တယ်၊ ဒါဖြင့် တည့်အောင်ချိန်နိုင်တာက သမာဓိနဲ့တူတယ်၊သေအောင်လုပ်နိုင်တာကပညာနဲ့တူပါတယ်။

တည့်အောင်လုပ်နိုင်တာက သမာဓိပါ။ အေး အာရုံတစ်ခုကို စူးစူးစိုက်စိုက်တည့်အောင်လုပ်တာက သမထ၊ ရာန်၊ ကိလေသာရန်သူကို မှန်အောင် ပစ်သတ်နိုင်တာက ပညာပါ၊ ပညာဆိုတော့ သမထကော၊ ဝိပဿနာ ပညာရော၊ တစ်ခါတည်း တွဲမသွားဘူးလား။ အဲဒီလို တစ်ခါတည်း တွဲသွားတော့ စိတ်ချရတဲ့အရေး ကြည့်လေ မဆိုနိုင်ဘူးလား၊ ဒါကြောင့် ဝေဒနာလေးတစ်ခု ဘယ်နေရာပဲပေါ်ပေါ် ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခ ရောက်အောင်ကြည့် သုခဝေဒနာလေးပေါ်တယ်၊ ဖြစ်ဒုက္ခ၊

ပျက်ဒုက္ခရောက် အောင် ရှုရမယ်။

အေး ဒါကြောင့် သမ္မာဒိဋ္ဌိဖြစ်အောင် ဆိုတော့ -

သုခံဝါ ဇာနတော ပဿတော သုခံဝါ ဒုက္ခံဝါအဒုက္ခံ
မသုခံဝါ တံပိဒုက္ခတော၊

တံပိ = ထိုပေါ်လာတဲ့ ဝေဒနာလေးတွေကိုလည်း ဒုက္ခတော =ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခအားဖြင့်၊ ဇာနတော = ရှုသော၊ ပဿတော = မြင်သောပုဂ္ဂိုလ်အား၊ သမ္မာဒိဋ္ဌိ = သမ္မာဒိဋ္ဌိသည်၊ ဥပ္ပဇ္ဇတိ = ဖြစ်၏။

ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခမြင်အောင် ရှုနိုင်တဲ့ပုဂ္ဂိုလ်၊ သမ္မာဒိဋ္ဌိပဲ၊ ဝိပဿနာသမ္မာဒိဋ္ဌိဖြစ်ပြီ၊ အဲဒီထက်ကျော်တဲ့ ရှုပါများလာတော့ ဒုက္ခအဆုံးကို မြင်တာကတော့ မဂ္ဂသမ္မာဒိဋ္ဌိမဖြစ်ပေဘူးလား၊ ဝိပဿနာသမ္မာဒိဋ္ဌိမပါဘဲနဲ့ မဂ္ဂသမ္မာဒိဋ္ဌိ မရပါဘူး။ ဝိပဿနာသမ္မာဒိဋ္ဌိ ဆုံးအောင်သာလိုက်လိုက်၊ မဆုံးသေးလို့ရှိရင် ထပ်ရှုနေရမှာပဲ၊ ဒုက္ခတွေ တွေ့နေသေးတယ်ဘုရား၊ ထပ်ရှုပေါ့ ဒုက္ခတွေ့နေသေးတယ် ဘုရား၊ (ထပ်ရှုရပါမယ်) ဆုံးဖြတ်ချက် မချနိုင်ဘူးလား။

အဲဒါကြောင့် ဒုက္ခအဆုံးကိုမြင်ပြီလား၊ ဒုက္ခအဆုံးက နိရောဓသစ္စာ၊ ဒုက္ခအဆုံးက နိရောဓသစ္စာပါ၊ မြင်တာက မဂ္ဂသစ္စာပါ၊ ခုနက ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခက ဒုက္ခသစ္စာပါ၊ သေနေတာက သမုဒယသစ္စာပါလို့မှတ်ပါ။ အေး ပြန်ပြောမယ်၊ ဒုက္ခအဆုံးက ဘာသစ္စာပါလိမ့်၊ နိရောဓသစ္စာပါ၊ ဒုက္ခအဆုံး မြင်တာက မဂ္ဂသစ္စာပါ၊ ဖြစ်ဒုက္ခ၊ ပျက်ဒုက္ခက ဒုက္ခသစ္စာပါ၊ သူရှု



နေတုန်းကို ဒုက္ခအဆုံးကို မြင်နေတဲ့တရားကြောင့် နိဝရဏ တရားတွေ ချုပ်ငြိမ်းရပ်သိမ်းတာက သမုဒယသေတာပဲ။

ဒုက္ခလို့ အမှန်အကန်သိရင် သမ္မာဒိဋ္ဌိဖြစ်မှာပဲ၊ ဒုက္ခလို့ အမှန်အကန်မသိသေးလို့ရှိရင် သမ္မာဒိဋ္ဌိမဖြစ်နိုင်သေးပါဘူး၊ ဒါဝေဒနာပဲလို့ ဆိုရင် မကိုက်သေးဘူးလား၊ ငါပဲဆိုရင် ဒီထက် မကိုက်ဘူး။ ဒါဖြင့် သာသနာတွင်း၊ သမ္မာဒိဋ္ဌိဖြစ်ချင်လို့ရှိရင်၊ ဝေဒနာ ပေါ်တိုင်း ပေါ်တိုင်း၊ ဒုက္ခမြင်အောင်ကြည့်၊အနိစ္စ မြင်အောင်ကြည့်၊ အနတ္တ မြင်အောင်ကြည့် အဲဒါသမ္မာဒိဋ္ဌိဖြစ်ပြီ။

ဝေဒနာ ပေါ်တိုင်း ပေါ်တိုင်း ငါဘဟဖြစ်ပြန်ပြီ၊ ငါကောင်းစားပြန်ပြီ၊ ငါဆင်းရဲလာပြီ၊ ငါအသင့်အတင့်ရှိလာပြီဆိုရင်ဖြင့် မိစ္ဆာဒိဋ္ဌိ ၊ ဒါဖြင့် သမ္မာဒိဋ္ဌိနဲ့မိစ္ဆာဒိဋ္ဌိ ကွဲပါပြီနော်။ ဒါကြောင့် "ယထာဘူတံ ဉာဏာယသတ္ထာ၊ ပရိယေသိ တဗ္ဗော" ဟုတ်တိုင်းမှန်စွာ အခုလို ရှင်းရှင်းလင်းလင်း ပြောနိုင်တဲ့ ဆရာကောင်း ခင်ဗျားတို့ သေသေချာချာ ရှာသင့်ပြီ နို့မို့ရင် အလွဲနဲ့ အချော်ချည်းဖြစ်မှာပဲ ဘယ်လောက်ကြောက်စရာ ကောင်းသလဲ၊ ဘုရားသခင်ကိုယ်တော်မြတ်ကြီးက မှာတော်မူတာ အရေးကြီးလို့ပဲမှတ်ပါ။

ဝေဒနာ ပေါ်တိုင်း ပေါ်တိုင်း ဒုက္ခရှုရပါမယ်၊ ဖြစ်ဒုက္ခ ပျက်ဒုက္ခသာလျှင် ရှုကွာ ဘယ်အခြေအနေရောက်အောင်ရှုရမှာလည်းဆိုရင် ငြီးငွေ့လာအောင် ရှုရပါမယ်၊ အေး တက်လိုက်ပါဦး၊ ဖြစ်ဒုက္ခ ပျက်ဒုက္ခထိအောင် ရှုရပါမယ်လို့မှတ်။

တက်ပါဦး၊ ဒီလောက်နဲ့ မရသေးဘူး တက်ပါဦး၊ ဒုက္ခ

အဆုံးရောက်အောင်ရှုရပါမယ်၊ အေး -အဆုံးကျအောင် ဒုက္ခဆုံးမှသာလျှင် နိဗ္ဗာန်ကိုဗျ၊ အဲဒါမြင်အောင်သာရှုပါ။ပထမ တော့ဖြင့် ဝေဒနာတွေ့အောင်၊ ဒုတိယဖြစ်ဒုက္ခ ပျက်ဒုက္ခတွေ့ အောင် ၊ တတိယဒုက္ခဆုံးအောင် ရှုလို့ရှိရင်ဖြင့် လိုချင်ရင်း ကိစ္စ၊ အကုန်ပြီးပြီ။ လွယ်တယ်တဲ့၊ အခုတရားကို ချုံးလိုက်ပြန် တော့လည်း ပထမ ဝေဒနာတွေ့အောင်ရှာ၊ ဒုတိယ ဝေဒနာ တွေကို ဖြစ်ဒုက္ခ ပျက်ဒုက္ခတွေ့အောင်ရှု၊ တတိယဝေဒနာဆုံး သည့်တိုင်အောင်ရှုဆိုတော့ ယနေ့တရားမှာ သုံးမျိုးထဲနဲ့ စခန်း သတ်ပြီး ဟောပြန်တယ်။

ပထမ ဘာတွေ့အောင်ရှာမလဲ ဝေဒနာတွေ့အောင်ရှာရ ပါမယ်၊ ရှာတဲ့ဝေဒနာကို တစ်ခါ ဘယ်အခြေအနေရောက် အောင်ရှုရမလဲ၊ ဖြစ်ဒုက္ခ ပျက်ဒုက္ခတွေ့အောင်ရှု၊ အေး -ဖြစ် ဒုက္ခ ပျက်ဒုက္ခရအောင်ရှု ကောင်းပြီ ဒါနဲ့ မကျေနပ်နဲ့ဦး၊ ဒုက္ခ အဆုံးရောက်အောင်ရှုလိုက်ပါ။ လွဲလို့မရဘူး၊ ဂရုစိုက်မှ ပထမတစ်နံပါတ်က ဝေဒနာ တွေ့အောင်ရှာ၊ ဒုတိယ နှစ်နံပါတ်က ဖြစ်ဒုက္ခ ပျက်ဒုက္ခမဖြစ် ဖြစ်အောင်ရှု၊ တတိယက ဖြစ်ဒုက္ခ ပျက်ဒုက္ခမတွေ့ရင် ဒုက္ခအဆုံးကိုမြင်သည့်တိုင်အောင်ရှု၊ အဲဒီ ကဲ့သို့ ရှုနိုင်လို့ရှိရင်ဖြင့် သမထ၊ ဝိပဿနာစုံတဲ့ မဂ္ဂင်ရှစ်ပါး အစုံဖြစ်ပြီ၊ လိုရင်းဆိုက် တော့ မလိုတော့ပါဘူး။

တရားကိုးကွယ်ရမယ်ဆိုတာသည် လက်အုပ်ချီနေရမှာ လား၊ ပွားများနေရမှာလား၊ ပွားများနေရမှာပါလို့ စွဲမှတ်ကြပါ။



## လက်အုပ်ချီနေရင် သမထ

တရားပဲကိုးကွယ်ပါ၏လို့ လက်အုပ်ချီနေတာသည် သမထ၊ ပွားများနေရင် (ဝိပဿနာ) ဒါလဲ ခွဲသိဦး၊ တရားဟောကြား ညွှန်ပြတဲ့ တရားတွေကို ပွားများပြီးနေခဲ့သော် ကိုးကွယ်နေ တာပဲ ဝိပဿနာပါ၊ သမထနဲ့ ဝိပဿနာကော ကွဲပလား။

## ပွားများနေတာမှ ဝိပဿနာ

ကဲ ဒါဖြင့် ဘုရားနားလက်အုပ်ချီနေတာ၊ ဗုဒ္ဓါနုဿတိကို ဗျ၊ သမထ တရားအားထုတ်နေတာ ဖြစ်ပျက်တွေမြင်အောင် အားထုတ်နေတယ်ဆိုလို့ရှိရင် ဝိပဿနာပါလို့မှတ်။သမထ ချည်းသက်သက်ဆိုရင် နိဗ္ဗာန်ဝရောက်တယ်လို့ မှတ်လိုက်ပါ၊ နိဗ္ဗာန်ရောက်သေအောင်လုပ်တာက ဝိပဿနာပါ၊ ဒါကြောင့်ဗြဟ္မာတွေ ပေမယ့်လည်း လူ့ပြည်ဆင်းပြီး အပါယ်သို့ရောက်အောင် ကျသေးတယ်။

ငတ်တဲ့အနာကြီးက ဗြဟ္မာပြည်ပါသွားတော့၊ အဲဒီအနာ ကြီးလည်းကြွပါရော၊ ဗြဟ္မာစုတေစိတ်ကျတယ်၊ တစ်ခါ တည်း လူ့ပြည့်ဆင်းပြီး၊ လူ့ပြည်ကနေ အပါယ်သွားတယ်၊ ဝက်တွေတောင်ဖြစ်လိုက်သေးတယ်၊ သမထချည်းသက် သက်လုပ်မယ်ဆိုရင်ဖြင့် လမ်းမဆုံးဘူးလို့မှတ်ပါ။ဝိပဿနာ လုပ်ရပါမယ်၊ ဝိပဿနာရှုရင် သမထပါပြီးသားဖြစ်ပါတယ်၊ အတွင်းဝင်သွားပြီ၊ ရေယူခဲ့လို့ရှိရင်ဖြင့် ခွက်ပါသလားလို့ မေး

ရင်၊ အရှူး ရေယူခဲ့ပါဆိုရင် ဘာနဲ့ယူခဲ့ရမလဲ ခွက်နဲ့ယူခဲ့ရပါမယ်တဲ့။

အဲဒီမှာလည်း ဝိပဿနာရှုနေတယ်ဆိုလို့ရှိရင်ဖြင့် ဒကာဒကာမတို့ ခွက်နဲ့တူတဲ့ သမထပါလာတယ်၊ အထူးရှုနေဖို့ မလိုတော့ပါဘူး၊ အေး ဒါကြောင့် ဒီလမ်းကို ကြိုးစားပါ၊ သာသနာတွင်းသားဖြစ်အောင်လုပ်လို့ တိုက်တွန်းလိုက်ပါတယ်။

## သမထလား၊ ဝိပဿနာလား

(၂၂-၈-၆၁)

လူလိမ္မာမှာလဲ သစ္စာလေးပါးမသိမှု အဝိဇ္ဇာကြောင့် ပြုချင် သလိုပြုတဲ့ သင်္ခါရ တောင်းချင်သလို တောင်းတဲ့ တဏှာ နော်၊ နှစ်ခုပါပဲ၊ အဝိဇ္ဇာ ပစ္စယာ သင်္ခါရာပါ။လူမိုက်မှာလဲ ဒီအတိုင်းပဲ၊ သစ္စာလေးပါးမသိတဲ့ အဝိဇ္ဇာကြောင့် ပြုမိပြုရာ ပြုတဲ့ကုသိုလ်၊ တောင်းမိတောင်းရာ တောင်းတဲ့ တဏှာပေါ့ဗျာ၊ တောင်းမိတောင်းရာတောင်း တယ်၊ ဘဝတဏှာနော်။

အဲဒီတော့ မသိလို့ပြုတယ်၊ ပြုလို့ ခင်ဗျားတို့ ဝိညာဏ်၊ နာမ်ရုပ်၊ သဠာယတန၊ ဖဿ၊ ဝေဒနာဆိုတဲ့ ခန္ဓာငါးပါးရတယ်။

ခန္ဓာငါးပါး ဒုက္ခသစ္စာပါ၊ အင်း မသိတဲ့လူများ ကုသိုလ်ပြုရင် ဒုက္ခသစ္စာရတာကိုး၊ မသိတဲ့လူ ကုသိုလ်ပြုတော့ ဒုက္ခသစ္စာရတယ်ဆိုတော့ ဖြုန်းခနဲဆိုတော့ နားထဲ ကန့်လန့်ကြီးဖြစ်မှာပဲ၊ မသိတဲ့လူ ကုသိုလ်ပြုပြီး ဘုံဘဝဆုတောင်းတယ်၊ ဒုက္ခသစ္စာပဲရပါတယ်၊ ဒုက္ခသစ္စာက ခန္ဓာငါးပါးမဟုတ်ဘူးလား။

ခန္ဓာငါးပါးကို သုခသစ္စာလို့ မဟောဘူး၊ ''သံခိတ္တေန ပဉ္စုပါဒါနက္ခန္ဓာ ဒုက္ခာ''လို့ဟောတာပဲ၊ ဘာဖြစ်လို့ ဒုက္ခလို့ ဟောရသတုံး၊ ဒီခန္ဓာကြီးကိုက နှိပ်စက်တတ်တယ်၊ ဒီခန္ဓာထဲမှာကိုက ပထဝီဓာတ်၊ အာပေါဓာတ်၊ တေဇောဓာတ်၊ ဝါယောဓာတ်ဆိုတဲ့ ဓာတ်လေးပါး မြွေလေးကောင်က ကိန်းရာ ပုဂ္ဂိုလ်ကိုက်တာပဲ။ သူကျောင်းတဲ့ ပုဂ္ဂိုလ်ပဲ၊ မြွေကျောင်းတဲ့ ပုဂ္ဂိုလ်ပဲ၊ မြွေကိုက်တာပဲ၊ အဲ ဒါဖြင့် နှိပ်စက်တတ်တဲ့ ခန္ဓာကြီးရထားတော့ ဒုက္ခသစ္စာ ပဲ၊ လူလိမ္မာလဲ ဒီဉစ္စာရတာပဲ၊ လူမိုက်မှာလဲ မသိတာဘဲ၊ မသိလို့ ပြုချင်သလိုပြုပြီး သူလဲပြုတာပဲ၊ ပြုပြီး ဆုတွေ ဘာတွေ တောင်းတာပဲ၊ ထို့အတူပဲ ခန္ဓာငါးပါးရတယ်။

ဒါဖြင့် မိုက်ပုံချင်းအတူတူ ရပုံချင်းအတူတူလို့ မှတ်လိုက်စမ်းပါ၊ ဒီဘက်က လူမိုက်၊ ဟိုဘက်က လူလိမ္မာ၊ အခုအခြေအနေမှာ မထူးသေးပါဘူး၊ ဒါဖြင့် အတိတ်မှာ ဘာမှ မထူးပါဘူး ပစ္စုပ္ပန်အရမှာလဲ မထူးသေးဘူး၊ ခန္ဓာငါးပါးချင်း အတူတူပဲတဲ့။

ဘုရားက ရဟန်းတွေကိုမေးတော့ ဟော့ လူမိုက်နဲ့လူလိမ္မာ ဘာထူးသတုံးကွ၊ လူမိုက်လဲ အဝိဇ္ဇာသင်္ခါရကြောင့် ခန္ဓာငါးပါးဖြစ်တာပဲ၊ လူလိမ္မာမှာလဲ အဝိဇ္ဇာသင်္ခါရကြောင့် ခန္ဓာငါးပါးဖြစ်တယ်၊ ဘာထူးလဲကွတဲ့၊ နိဒါနဝဂ္ဂသံယုတ် ပါဠိတော်မှာ ဘုရားက မေးတယ်။

မေးတဲ့အခါကျတော့ ရဟန်းတွေက အရှင်ဘုရား ပြောမှ ဟောမှ သိရမည့် ပုဂ္ဂိုလ်တွေဖြစ်ပါတယ်ဆိုတော့ ဒါဖြင့် မင်းတို့ သေသေချာချာနာကြဆိုပြီး လူမိုက်ကျတော့ကွာ အားကြီး



မိုက်တယ်နော်၊ သူ့ခန္ဓာကြီးကို ကျွေးမှု၊ မွေးမှု၊ ခင်မှုမင်မှုဆိုတဲ့ တဏှာလာတယ်ကွတဲ့၊ ပစ္စုပ္ပန်ခန္ဓာပေါ့၊ ဥပါဒါန်ဟုတ်လား၊ ဒီခန္ဓာကောင်းစားရေး တစ်ခါ သူလုပ်ပြန်တယ်ကွတဲ့။

ခန္ဓာကောင်းစားရေး လုပ်တဲ့အခါကျလို့ရှိရင်လည်း ဒီကံသည် ကမ္မဘဝ ပစ္စယော ဇာတိဆိုတဲ့ ဇရာမရဏဆိုတဲ့ အနာဂတ်ခန္ဓာ ရတယ်ကွ၊ ဒါ လူမိုက်၏ ပဋိစ္စသမုပ္ပါဒ်။ လူမိုက် ပဋိစ္စသမုပ္ပါဒ် ထူးလာတယ်၊ အဝိဇ္ဇာ သင်္ခါရကြောင့် ခန္ဓာငါးပါး ဖြစ်တယ်၊ ဒီခန္ဓာငါးပါးကို သူသည် ခင်မင်ပြီး ကျွေးမွေးနေတယ်၊ ဒီခန္ဓာကိုပဲ စွဲလမ်းတယ်၊ ဒီခန္ဓာအတွက်ပဲ အားထုတ်တယ်၊ ဒီခန္ဓာအတွက် ကာယကံ၊ ဝစီကံတွေ အားထုတ်တဲ့ အတွက် နောက်ခန္ဓာရ ရမယ်။

ဒီခန္ဓာအတွက် အားထုတ်ငြားသော်လည်း ဒီခန္ဓာ အတွက်ကို အကုသိုလ် အားထုတ်တယ်၊ နောက်ခန္ဓာရ ရမယ် ဩော် ဒါဖြင့် လူမိုက်သည် တိုတိုပြောလိုက်မယ်၊ သမုဒယ သစ္စာနဲ့ ဒုက္ခသစ္စာလာတယ်။ လူမိုက်မှာ ခန္ဓာငါးပါးရပြီးသည်၏ အခြားမဲ့မှာ သမုဒယသစ္စာနဲ့ ဒုက္ခသစ္စာရတယ်၊ သမုဒယ သစ္စာသုံးခု၊ အကြောင်း သုံးခုနဲ့ အကျိုးတစ်ခုလာတယ်။

လူလိမ္မာကျတော့ကို ဒီလိုမဟောပါဘူးတဲ့၊ လူလိမ္မာကျတော့ကို အခု ရ-ထားတဲ့ ပစ္စုပ္ပန်ခန္ဓာငါးပါးကို ခန္ဓာငါးပါး ကြောင့် မဂ်ပေါ်အောင်လုပ်တယ်၊ အသိဉာဏ်ရအောင် လုပ်တယ်။

ကောင်းပြီ- ခန္ဓာငါးပါးကို သိမှုမဂ်ပေါ်အောင် လုပ်လိုက်

တဲ့အတွက် ဒီ - ဒီသမုဒယနဲ့ ဒီဒုက္ခ လူလိမ္မာမှာ မလာဘူး၊ ဒါဖြင့် လူမိုက်နဲ့ လူလိမ္မာ ဒီနှစ်ခုဟာ ထူးတာပဲ၊ မထူးဘူးလား၊ ပဋိစ္စသမုပ္ပါဒ် သူက ဖြတ်တယ် သူက ဆက်တယ်။ ဖြတ်မှုနဲ့ ဆက်မှု ထူးခြားတယ်၊ လူမိုက်ကဆက်ပြီး အနာဂတ်ဘဝကျ အောင် ရတယ်၊ ဒါက ခန္ဓာ ဇာတိ၊ ဇရာ၊ မရဏ မရဘူးလား၊ ကောင်းပြီ၊ ဒါ မဂ္ဂဗြဟ္မစရိယအကျင့်၊ ဪ လူလိမ္မာက မဂ္ဂဗြဟ္မစရိယအကျင့်ကို ကျင့်တယ်၊ လူမိုက်က မကျင့်ဘူး။

သူနဲ့ သူဟာ သူက အားထုတ်တဲ့ ပုဂ္ဂိုလ်မှာ လာတယ်၊ သူက အားမထုတ်တဲ့ ပုဂ္ဂိုလ်မှာ လာတယ်၊ ဒါ လူမိုက် အချိန် ဒါက လူလိမ္မာအချိန်ပါပဲနော်၊ ဒါ ခန္ဓာဖြစ်စဉ်ပါ၊ သူများပြော မဟုတ်ပါဘူး၊ ခန္ဓာ့ဖြစ်စဉ်လို့ သိပြီးနေတဲ့အတွက် ဒါ ဘယ်သူ တောင်းပန်လို့မှ ဒီအပါယ်ငရဲကို ဇာတိ၊ ဇရာ၊ မရဏဆိုတာ အပါယ်ဇာတိ၊ အပါယ်ဇရာ၊ အပါယ်မရဏဖြစ်နိုင်တာပဲ၊ အမျိုးမျိုးဖြစ်နိုင်တယ်။ ဒါက ခင်ဗျားတို့က ဘယ်လိုဖုံးဖိနေနေ သူ့လမ်းသူ သွားတာပဲ၊ လူတွေကို အဝတ်ဖုံးပြီး အိုတာ၊ ဖျိုတာကိုကာ ကွယ်လို့ အသင့်အတင့်ရနိုင်သေးတယ်၊ ဝမ်းထဲမှာ စိတ္တုပ္ပါဒ်အစဉ်ကို ကာကွယ်လို့မရဘူး။

အဲဒီတော့ကို ဒီမဂ္ဂဗြဟ္မစရိယ = မဂ္ဂင်ငါးပါး၊ မဂ္ဂဗြဟ္မစရိယအကျင့်ကို မကျင့်တဲ့ပုဂ္ဂိုလ်ဟာ ဒါ သူ ဒီလမ်းသွားမှာပဲ၊ ဒီ သမုဒယနဲ့ ဒုက္ခရမှာပဲ၊ မဂ္ဂဗြဟ္မစရိယအကျင့် ကျင့်တဲ့ပုဂ္ဂိုလ် ဒီ သမုဒယနဲ့ ဒုက္ခချုပ်မှာပဲ။

ဒါဖြင့် ကျင့်တဲ့အချိန်နဲ့ မကျင့်တဲ့အချိန်ဆိုတာ သူများ



မေးရမှာလား၊ ဒီခန္ဓာထဲမှာပဲ ကိုယ့်ဟာကိုယ် ဝေဖန်ကြည့်ရမှာလား၊ ကိုယ့်ဟာကိုယ် ဝေဖန်တဲ့အခါကျတော့ကို ဘုရားက ကျွာတဲ့ သူတစ်ပါးဟာ အကဲခတ်ရတာ မသိနိုင်ဘူးတဲ့၊ သူတစ်ပါး အကဲခတ်ရတာ မသိနိုင်ပါဘူး၊ ကိုယ့်ကိုယ် ကိုယ် အကဲခတ် ကြည့်ပါတဲ့၊ ကိုယ့်ကိုယ်ကိုယ် အကဲခတ် ကြည့်ပါ၊ ငါသည် သမုဒယနဲ့ ဒုက္ခဖြစ်သလား၊ ငါသည် သမုဒယနဲ့ ဒုက္ခချုပ်သလား၊ ကိုယ့်ကိုယ်ကိုယ် အကဲခတ် ကြည့်လိုက်ပါ။

ငါကျောင်းဆောက်နေတယ်၊ ငါဘုရားတည်နေတယ်၊ အသာထားစမ်းပါ ဒါတွေ၊ ဒါတန်း ၊ မတန်းသာကြည့်၊ မဟုတ်ဘူးလား၊ ငါကျောင်းဆောက်နေတယ်ကွ၊ ငါဘုရားတည်နေတယ်ကွ၊ ကျောင်းဆောက်တာက သူ့ဟာသူ လက်သမားက ဆောက်တာ၊ မဟုတ်ဘူးလား၊ စိတ်က သူ့ဟာသူ တန်းတာ၊ ဘာဆိုင်တာမှတ်လို့။ ခင်ဗျားတို့က ဆင်သေ သားရေအုပ်တာကလေးက အတော်ကလေးကိုအသားယူနေကြတယ်၊ ဆင်သေ သားရေအုပ်လို့ မလုံပါ။ နွားသားရေလောက်နဲ့ ဆင်သေကြီးကို မလုံပါဘူးနော်။

အဲဒါ ခင်ဗျားတို့ လူစုတွေက တပည့်တော် တော်တော် စိတ်ချရလောက်ပြီထင်ပါရဲ့ဘုရား၊ ခင်ဗျားတို့က ခင်ဗျားတို့ဟာ ခင်ဗျားတို့ပေါ့ဗျာ၊ တော်တော်စိတ်ချရလောက်ပြီထင်ပါရဲ့ဘုရာ့၊ တော်တော်စိတ်ချရရဲ့ စိတ်ချရလောက်ဆိုတာတော့ ဘုန်းကြီး မပြောတတ်ဘူး မဟုတ်ဘူးလား၊ ဒီ ပဋိစ္စသမုပ္ပါဒ် နှစ်ခုနဲ့ အကဲခတ်၊ ဒါ လိုရင်းပဲ။

ခင်ဗျားတို့ ဆင်သေ သားရေအုပ်တာ မလိုချင်ဘူး၊ ဒီဟာ လာမလာသာ အရေးကြီးတယ်၊ ဒီဟာ ပြတ်မပြတ် ဒါပဲ အရေးကြီးတယ်၊ ဘုရားတည်တာက အပြကိုးဗျ၊ အပြတွေနဲ့ ဒီကနေပြီး အမှန်ယူရမှာလား၊ အတွင်းက အမှန်ယူမှပေါ့။

အဲဒီတော့ ပြုံးချင်ရင်လဲ ခင်ဗျားတို့ ဒီနှစ်ခုမှာ ဒီဘက်က နေပြုံး၊ ဖုံးချင်တဲ့ ဥစ္စာဆိုရင်လဲ ခင်ဗျားတို့ ဒီဟာကို ဖုံးနေတယ်လို့ အောက်မေ့ပါ၊ ခင်ဗျားတို့ ပြောနေတဲ့ဟာ ဒါတွေဖုံးနေတာ၊ ဒီသမုဒယနဲ့ ဒုက္ခ ဖုံးနေပါတယ်။ ကျုပ်တော့ဗျာ သတိမလစ်ပါဘူး၊ အသက်ကလဲကြီးလာတော့ သူတော်ကောင်းစိတ်ကလဲ ဝင်စားလာတော့ လျှုဒါန်းစွန့်ကြဲဆိုတာလဲ တယ်မပြတ်ဘူး၊ ဒါ ဖုံးနေတာ ဒါဖုံး နေတာဗျ။

ဒါတော့ပါကို မပါဘူး၊ မပါတော့ မင်းတို့ဘာပြောနေနေ အသက်အရွယ်ကြီးလို့ ဆံဖြူပြီ၊ သွားကျိုးပြီ၊ ဘာပြောနေနေ ကိုယ့်မှန်ကိုယ်ကြည့်ပါ၊ ဒီ မှန်နှစ်ချပ်ထားတယ်၊ ကိုယ်က ဉာဏ်နဲ့ကြည့်လိုက်တဲ့အခါ ဒါကိုမြင်သလား၊ ကိုယ့်မှန်နဲ့ ကိုယ်သာကြည့်။

ကိုယ့်မှန်နဲ့ ကိုယ်ကြည့်လို့ရှိရင်ဖြင့် ဒီဘက်ကဟာ ဖြစ်တာသိနေလို့ရှိရင် သမုဒယချုပ်မှာပဲ၊ ဒီဘက်ကဟာ မလာဘူး၊ သမုဒယနဲ့ ဒုက္ခဖြစ်မှာပဲ၊ ဘာဖုံးလို့ဘာဖိနေနေ၊ ဒါအပိုပဲ။

ဒါဖြင့် ကျင့်ပုံကျင့်နည်း မပြောရသေးပါဘူး၊ ခင်ဗျားတို့ စိတ်နေစိတ်ထားကတော့ တစ်နေ့မှာ ဒီဘက်ကလား၊ ဟိုဘက်ကလား၊ ဟိုဘက်နာရီမှာ ဒီဘက်ကလား၊ ဟို ဘက်ကလား၊နောက်နာရီမှာ ဒီဘက်ကလား၊ ဟို ဘက်ကလား၊ ဒါ အကဲခတ်နေ၊ နာရီနဲ့ စက္ကန့်နဲ့သာ အကဲခတ်။ ဒါ သူများပြောပဲ မှားသည်ရှိ မှန်သည်ရှိ ပြင်ဘက်ကနေ အကဲခတ်တာကွ၊ ငါ့ဟာငါ အကဲခတ်ကြည့်တော့ မတူဘူးဟေ့။

ကိုယ့်ဟာကိုယ် အကဲခတ်ကြည့်မှ သိတာကိုး၊ သူများဆိုတာကတော့ တစ်ခါတည်း တစ်သိန်းကုန် ဒီပစ္စည်းကို နိဗ္ဗာန ပစ္စယော လုပ်လိုက်ပါတယ်၊ ဆိုင်းဘုတ်ကြည့်ပြီး သာဓုခေါ်သွားတာ၊ မဟုတ်ဘူးလား၊ ကိုယ်က ဘဝတဏှာနဲ့ လုပ်ထားလို့ရှိရင် သမုဒယနဲ့ ဒုက္ခရမယ်။ အဲဒီတော့ သူများက ဆိုင်းဘုတ်ကြီးကြည့်ပြီး သာဓုခေါ်ပေမယ့် ကိုယ့်မှာက သမုဒယနဲ့ ဒုက္ခဖြစ်နေတယ်၊ ဒါဖြင့် သူများသာဓုခေါ်တာဟာ ကိုယ့်ဒုက္ခ ကင်းရေးလား ကိုယ့်အလုပ် မလုပ်တတ်လို့ ကိုယ့်ဒုက္ခရရေးလားဆိုတာ မေးလိုက်ပါ။

အဲဒါကြောင့် ခင်ဗျားတို့ ရပ်နဲ့၊ ရွာနဲ့ ဘာမှ တွေးမနေနဲ့ ကိုယ့်မှန်ကိုယ်ကြည့် ကိုယ့်မှန်ဆိုတာက ဒီမှန်တစ်ချပ်၊ ဒီမှန် တစ်ချပ်။ ကိုယ့်ရှိတာမို့ ဖြစ်ပြီးသားမို့ ကိုယ့်ဉာဏ်နဲ့ ပြန်ကြည့်လိုက်တဲ့အခါကျတော့ ဒီနေ့ ဒါများတယ်၊ ဒါ မပါဘူး၊ ဒီနေ့ ဒါများတယ်၊ ဒါ မပါဘူး၊ ဒါ သူများ မေးရမှာလား၊ ကိုယ့်ဟာကိုယ် ကြည့်လိုက်တဲ့အခါကျလို့ရှိရင်ဖြင့် သိရောပေါ့ကွာ၊ ဖုံးဖိလို့ ရသေးရဲ့လား။

ဒီ့ပြင် လူသာဓုခေါ်၊ နတ်သာဓုခေါ်တွေကို တယ်မလိုချင်ပါနဲ့၊ ခင်ဗျားတို့က လူသာဓုခေါ်၊ နတ်သာဓုခေါ်တယ်တွင်

လမ်းဆုံးတယ်၊ လူ့သာဓုခေါ်၊ နတ်သာဓုခေါ် ဒါ အရပ်စကားပါ၊ ကိုယ့်ဟာကိုယ် သာဓု မခေါ်နိုင်သေးဘူး၊ အရေးကြီးတာက ကိုယ့်ဟာကိုယ် သာဓုခေါ်နိုင်ဖို့၊ လူ့သာဓုခေါ်၊ နတ်သာဓုခေါ် ငါ မလိုချင်ပါဘူးကွ ကိုယ့်ဟာကိုယ် သာဓုခေါ်ရပါမယ်၊ ကိုယ့်ဟာကိုယ် သာဓုမှ ကိုယ့်ဟာကိုယ် သိလို့ခေါ်တာကိုးဗျ။

လူ့သာဓုခေါ်၊ နတ်သာဓုခေါ်ဆိုတာ လူဆိုတာ အသိဉာဏ်ရတာမဟုတ်ဘူး၊ ရမ်းပြီး သာဓုခေါ်တာ၊ နတ်ဆိုတာကလဲ ထိုနည်းအတူပဲ၊ မိစ္ဆာနတ်၊ သမ္မာနတ်ရှိတယ်၊ မိစ္ဆာနတ်က ခေါ်တော့ အပိုပဲကွ၊ သမ္မာနတ်ကလဲ အကုန်တန်ခိုးကြီးတာ မဟုတ်ဘူး။ အဲဒီတော့ လူ့သာဓုခေါ်၊ နတ်သာဓုခေါ်ဆိုတာ အသာချိတ်ထား၊ ကိုယ်တိုင် သာဓုခေါ်ဖို့ ဂရုစိုက်ပါ၊ မဂ္ဂပြဟ္မစရိယ အကျင့် ကျင့်ရပါမယ်၊ ဒါမှ ကိုယ့်ဟာကိုယ် သာဓုခေါ်နိုင်မှာ ကိုးဗျ၊ သူများ သာဓုခေါ်တာကိုတော့ ခင်ဗျားတို့ ဘာမှ ဂရုမစိုက်နဲ့။

သူများ သာဓုက ပညာမရှိတဲ့လူ သာဓုခေါ်လိုက်တာဟာ တော်တော်နာတယ်၊ ကိုယ်က ဘုံဘဝဆုတောင်းတယ်၊ ကိုယ်က ဘုံဘဝဆုတောင်းတဲ့ အလှူကြီးလှူနေတယ်၊ ဟိုက သာဓုခေါ်လိုက်တယ်၊ မင်း ဒုက္ခရောက်တာ ဝမ်းသာတယ်ဆိုတဲ့ အဓိပ္ပာယ်ရောက်တယ်၊ ရမ်းခေါ်တာကိုးဗျ၊ ရမ်းခေါ်လိုက်တော့ မင်းကြိုးကျသွားတယ်ကွာ ဝမ်းသာလိုက်တာ၊ ဒီ အဓိပ္ပာယ်လဲရတယ်၊ ဟိုမှာ ဒုက္ခသစ္စာကြီးရသွားတယ်။

အဲဒါကြောင့် သူများ သာဓုခေါ်တာတော့ မင်းတို့က ဂရုကို



မစိုက်နဲ့၊ ကိုယ့်ဟာကိုယ် သာဓုခေါ်ဖို့ ဂရုစိုက်၊ မဂ္ဂပြဟ္မစရိယ သိက္ခာပုဒ်အကျင့် ကျင့်ရပါမယ်၊ သိက္ခာပုဒ် မဟုတ်ဘူးဗျ၊ ပြဟ္မစရိယ အကျင့်ကို ကျင့်ရမယ်။

ဒါဖြင့် ခင်ဗျားတို့ ယူထိုက်မှယူ၊ ဘယ်သူ ပြောပြော ကိုယ့်ဟာကိုယ် သာဓုမခေါ်နိုင်သေးတဲ့ အလုပ်ဟာ မဟုတ်သေးဘူး သာမှတ်၊ ဘယ်သူဘာပြောနေနေ၊ အရွယ်ကြီးကြလို့ သတိတော့ ရရှာသကွာ၊ ဆရာ ဘုန်းကြီးကောင်းနဲ့ တွေ့သွားရှာသကွာ၊ သာဓု -သာဓု အို . . . မဟုတ်သေးဘူး၊ ကိုယ့်မှာ သဏ္ဍာယတန်းလန်းနဲ့ မဂ္ဂပြဟ္မစရိယအကျင့်က မကျင့်ရသေးဘူး။

သမုဒယနဲ့ ဒုက္ခမချုပ်သေးဘူး၊ မချုပ်သေးလို့ရှိရင်ဖြင့် မင်းတို့ သာဓုခေါ်တာ ငါ ရှက်လှချည်ရဲ့၊ ဒီလိုသာ အောက်မေ့ရမယ်၊ သူတို့ သာဓုခေါ်တာ ကိုယ်ရှက်ပါ၊ ကိုယ့်မှာမှ မဂ္ဂပြဟ္မစရိယအကျင့် မကျင့်သေးဘဲနဲ့ သူတို့ သာဓုခေါ်စောတဲ့ အတွက် ကိုယ့်မှာ ရှက်စရာကြီးပဲ။

ကိုယ်က ဝဋ္ဋဒါနကြီးလုပ်နေတယ်၊ နိဗ္ဗာန်သေချာပြီပြောတာနဲ့ ဝမ်းသာရင်ခက်တယ်၊ ကိုယ်က လုပ်တာက ဝဋ္ဋဒါနပါ၊ ဘေးက လူတွေကတော့ မသိရှာတော့ ဩော် သူတို့တော့ဖြင့် နိဗ္ဗာန်လက်ဝါးနဲ့ပုတ် မလွဲဘူး၊ အင်း ခက်ပါသေးတယ်။ ကိုင်း ဒါဖြင့် ခင်ဗျားတို့ဘုရားက လူမိုက်နဲ့ လူလိမ္မာ ဘာ ထူးသတုံး ဆိုတာသာ အမိကထားတာ၊ လူမိုက်က သမုဒယနဲ့ ဒုက္ခဖြစ်တယ်ကွ၊ ဒါ အနာဂတ်အကြောင်းကို၊ အနာဂတ် အကြောင်း

အနာဂတ်အကျိုးဖြစ်ပါတယ်၊ လူလိမ္မာကတော့ ပစ္စုပ္ပန် မဂ္ဂဖြဟ္မစရိယကြောင့် အနာဂတ်အကြောင်းနဲ့ အနာဂတ်အကျိုး ချုပ်တယ်။

မဂ္ဂဖြဟ္မစရိယအကျင့် ကျင့်တာ၊ လူလိမ္မာခေါ်ပါတယ်၊ မဂ္ဂဖြဟ္မစရိယအကျင့် မကျင့်ဘဲနဲ့ ပဋိစ္စသမုပ္ပါဒ် ထုံးစံအတိုင်း သွားနေတာ လူမိုက်ပါလို့မှတ်ပါ။ ခင်ဗျားတို့က အရပ်ထဲက မေးလို့ရှိရင် ကျုပ်တို့တော့ဗျာ လူဆိုးမထင်ပါနဲ့၊ ကျုပ်တို့တော့ လူဆိုးမထင်ပါနဲ့ဆိုတော့ ဒီ အတိုင်းသွားရင် ဟုတ်ပါတယ်၊ အဲဒီတော့ ပုတီးပုတီးနဲ့နေလဲ မဟုတ်သေးဘူးကွ၊ အဝတ် အသွင်ဝတ်နေရုံလဲ မဟုတ်သေးဘူးကွ၊ ဒါ လိုရင်းပဲ။

မဂ်လသုတ် ဆက်လိုက် လူမိုက်၊ လူမိုက်ဆိုတာ လူက မိုက်တာလား၊ အတွင်းတရားက မိုက်တာလား၊ အတွင်း တရားက မိုက်တာပါ။ လူလိမ္မာ လူလိမ္မာဆိုတာကတော့ အတွင်း တရား က လိမ္မာတာပါပဲ။

လူက ဘယ်တော့မှ မမိုက်ဘူး၊ အတွင်းတရားက မိုက်ရင် မိုက်တာပဲ၊ အတွင်းတရားက လိမ္မာရင် လိမ္မာပါတယ်၊ ဒါဖြင့် အခု အသေဝနာစတာလာန် မမှီဝဲကောင်းတဲ့တရား မှီဝဲလို့ မဖြစ်ကောင်းတဲ့တရားဖြစ်တယ်၊ ပဋိစ္စသမုပ္ပါဒ် သမုဒယနဲ့ ဒုက္ခ၊ သမုဒယ လောဘတစ်လုံးတည်း မယူနဲ့၊ တဏှာ၊ ဥပါဒါန်၊ ကံ ဒါဖြစ်ကြောင်းချည့်ပဲ ဒုက္ခ။

ဒီတရားပေါ်လာရင် အသေဝနာစ တလာန် ဒီတရားပေါ်လာရင် ပဏ္ဍိတာနဥ္စသေဝနာ၊ ဒီတရား ဆက်နေရင် အသေဝ



နာစ တလာန်ပါ၊ ဒီတရားပေါ်လာရင် ပဏ္ဍိတာနဥ္စသေဝနာပါပဲ၊ ဒီတရားလာရင် အသေဝနာစ တလာန်ပါ၊ မမှီဝဲကောင်းတဲ့ တရား သူမှီဝဲနေတယ်၊ ဒီတရားကို သူကြိုးစားရင် ပဏ္ဍိတာ နဥ္စသေဝနာပါပဲ။

ကောင်းပြီ၊ ဒါဖြင့် ခင်ဗျားတို့ လူမိုက်နဲ့ လူလိမ္မာဆိုတာ မင်္ဂလသုတ်မှာလဲ ဒါပဲ ဟောတယ်၊ အခု သံယုတ်ပါဠိတော်မှာ လဲ ဒါပဲဟောပါတယ်။ ဒီနောက်က တဏှာဒိဋ္ဌိ လာနိုင်သေးရဲ့ လား၊ မလာနိုင်ရင် ခန္ဓာဖြစ်ပါ့မလား ၊ မဖြစ်လို့ရှိရင် အို ၊ သေ ဆိုတာ မလာတော့ဘူး၊ ဒါဖြင့် အို၊ သေ မလာတာ အိုခြင်း၊နာ ခြင်း၊ သေခြင်းတို့၏ ချုပ်ရာဟာ နိဗ္ဗာန်ပဲ။

ကဲ ပါသွားတာပဲ၊ ခန္ဓာချုပ်ရာ နိဗ္ဗာန် အို - သေ ချုပ်ရာ နိဗ္ဗာန်ပါ၊ တဏှာ ဒိဋ္ဌိချုပ်ရော နိဗ္ဗာန်ပါ၊ ဒီသုံးခုချုပ်ကတည်းက နိဗ္ဗာန်ပဲ၊ တော်တော်နေရာကျသွားပြီ၊ ကောင်းပြီ ခင်ဗျားတို့ က နောက် အကြောင်းညီညွတ်မှ တွေ့ရမယ်၊ တွေ့ချင်မှလဲ တွေ့မယ်၊ သူကတော့ တွေ့နိုင်တယ်၊ ကိစ္စမရှိဘူး၊ သမီးရှိ သေးလား၊ ပြန်သွားပါပြီ၊ မှတ်မိရုံတော်ပြီ၊ နို့ သားက ဒီမှာလား၊ သားက ဒီမှာပါ၊ အင်း အင်း ကောင်းတယ်။

ကဲ ဒါဖြင့် ခင်ဗျားတို့ ရှုတဲ့အခါကျတော့ ဖြစ်ပျက်မင်္ဂ၊ ဖြစ်ပျက် - မဂ်၊ ဖြစ်ပျက် - မဂ်ကိုက်အောင်လုပ်ရမယ်၊ ဒီကြားမှာ တစ်ပါးသော တရား မဝင်စေနဲ့၊ သူနဲ့ သူနဲ့ကြားမှာတစ်ပါးသော စိတ်တွေ မဝင်စေနဲ့၊ ဒါ သိပ်အရေးကြီးတယ်။

ဖြစ်ပျက်နဲ့ မဂ်နဲ့ကြားထဲမှာ တစ်ပါးသော စိတ်ဆိုတာ

လောဘလဲ မဝင်စေနဲ့၊ ဒေါသလဲ မဝင်စေနဲ့၊ မောဟလဲ မဝင်စေနဲ့နော်၊ ဝင်လို့ရှိရင် ခင်ဗျားတို့ ခုနစ်ရက်နဲ့ မရနိုင်ဘူး၊ ဝင်လို့ရှိရင် ခုနစ်ရက်နဲ့ နိဗ္ဗာန်မရနိုင်ဘူး၊ သူ မဝင်လို့ မဝင်လို့ရှိရင် ဖြင့် ညနေအားထုတ် မနက်တောင်ရမယ်၊ ညနေ အားထုတ် မနက်တောင် နိဗ္ဗာန်ရမယ်၊ မဝင်ရင် ရမယ်။

ကောင်းပြီ၊ ခင်ဗျားတို့ အခု သူများက ပြောလိမ့်မယ်၊ မင်းတို့ တိဟိတ်လား၊ ဒွိဟိတ်လားဆိုရင် ဖြစ်ပျက်မြင်ရင် တိဟိတ်သာ မှတ်လိုက်ပါ၊ ဒီကြား ကိလေသာကြားသာ မစွက်ရင်တော့ မနက် အားထုတ် ညနေ ရမယ်ဆိုတော့ ကိလေသာဆိုတာလဲ ဆယ်ပါးတောင်ရှိတယ်၊ ရှိပေမယ့် ခင်ဗျားတို့က ဒါနဲ့ဒါ ကိုက်အောင်လုပ်ရင် ဘယ်ဟာမှ မလာနိုင်ပါဘူး၊ အဲဒီမှာ ဝီရိယပြင်းထန်ပေးလိုက်ပါ။

လောဘကိလေသာ၊ ဒေါသကိလေသာ၊ မောဟ ကိလေသာ၊ ဣဿကိလေသာ၊ မစ္ဆရိယကိလေသာ၊ ကုက္ကုစ္စ ကိလေသာ၊ မာနကိလေသာ၊ ဉဒ္ဓစ္စကိလေသာ၊ ဝိစိကိစ္ဆာ ကိလေသာ၊ အဝိဇ္ဇာကိလေသာ၊ ကိလေသာဆယ်ပါးတောင် ရှိတယ်။

အဲဒါကြားမထိုးဘဲနဲ့ သူက ဖြစ်ပျက် သူက နောက်က မဂ်မြန်မြန်လိုက်၊ ဖြစ်ပျက်မြင်တဲ့ မဂ်လိုက်လိုက်၊ သူက ဖြစ်ပျက်ဆိုရင် နောက်က ဩော် ဖြစ်ပျက်ကို မြင်တာ ချက်ချင်းလိုက်၊ သူက ဖြစ်ပျက်သွားပြီဆိုရင် သူက ဖြစ်ပျက်မြင်တာကိုး၊ ချက်ချင်းလိုက်ရပါမယ်။ ဒီလို လိုက် လိုက်သွားတော့ ကိလေသာ ဆယ်ပါး သူတို့ ကြားထဲဝင်သေးရဲ့လား၊ မဝင်လို့ရှိရင် ညနေ



အားထုတ်ရင် မနက်ရမှာပဲ၊ မနက်အားထုတ် ညနေရမယ်ဆိုတာကို ဘုရား ဟောခဲ့တယ်။

ဘုရားကို ဟောတာ၊ ဉာဏ်ကောင်းတဲ့ပုဂ္ဂိုလ် မနက်အားထုတ် ညနေရတာပဲ မဟုတ်လား၊ ဒီ့ထက်ဖျင်းတဲ့ လူဟာ ခုနစ်ရက်လောက်ကြာတတ်တယ်၊ သိပ်ဖျင်းတဲ့ လူဟာ ခုနစ်ရက်လောက်ကြာတတ်တယ်၊ ဒါပဲ အဲဒီတော့ ဒါကတော့ ကိုယ့်ပေါ်မှာမူတည်တယ်လို့ အောက်မေ့ပါ။ ကောင်းပြီ ဒါဖြင့် ကိလေသာ ကြားမခိုဖို့ဟာ ဒီအထဲမှာ နည်းသိပြီးသည့် အခြားမဲ့၌ ကိလေသာကြားမခိုဖို့ရာ အရေးကြီးဆုံး၊ နည်းသိပြီးရင် ကိလေသာကြားမခိုဖို့ သိပ်အရေးကြီး ပါတယ်။

နည်းသိဖို့ရာ ပထမ အရေးကြီးတယ်၊ နည်းသိပြီးတော့ သူကြားမခိုဖို့ရာကိုတော့ ဟောဒီအထဲမှာ ဝီရိယပါတယ်၊ သမ္မာဝါယာမဆိုတာ အဲဒီ ဝီရိယကို ပြင်းထန်ပေးလိုက်၊ သူ ကြားမခိုနိုင်တော့ဘူး၊ ဒီအထဲ ဝီရိယကိုသာ ပို့ပေး - ပို့ပေး လိုက်လို့ရှိရင် ကြားမခိုနိုင်ဘူး။

ကောင်းပြီ၊ ဒါဖြင့် နည်းကောင်းကောင်း ငါရပြီဆိုပြီး ခင်ဗျားတို့ ဒီဉစ္စာကို ဆယ့်သုံးခုပဲ ခန္ဓာကိုယ်ထဲမှာရှိတယ်၊ ဒါလှည့်ရှုရုံပဲ၊ လှည့်ရှုလို့ အကုန်မြင်ပြီ၊ တပည့်တော်တို့ ရှုတိုင်းရှုတိုင်း ဖြစ်ပျက်နဲ့ မဂ်လဲ ကိုက်တယ်၊ ကိလေသာလဲ ကြားမခိုဘူးဆိုလို့ရှိရင် ခင်ဗျားတို့ ဒါဟာ ၁ - နံပါတ်အချက် အောင်ပြီ၊

၁ - နံပါတ်အချက် အောင်ပြီးတော့ ၂ - နံပါတ်ကို ပြောလိုက်မယ်၊ ၁ - တော့ အောင်သွားပြီ၊ ဖြစ်ပျက်နဲ့ မဂ်နဲ့ကိုက်ရင်

၁ - အောင်ပြီ၊ အဲဒီဖြစ်ပျက်ကို အောင်တယ်လို့ ခင်ဗျားတို့ မနေဘဲနဲ့ ဆက်ရှု၊ ဆက်ရှုလို့ရှိရင် ဒီဖြစ်ပျက်တွေဟာ မိမိ အသေလို့မှတ်ပါ၊ ဒါ မိမိသေနေတာ သူများသေတာ မဟုတ်ဘူး။ မိမိသေတယ်၊ မိမိအသေ မိမိမြင်မိသောကြောင့် ပေါ်ဒီ ဉာဏ်သည် မဂ္ဂင်ငါးပါးသည် မုန်းတဲ့မဂ္ဂင် လာဖြစ်သည်၊ မုန်းလာလို့ရှိရင် ၂ - နံပါတ်တက်လို့ မှတ်၊ ဒါတွေရှုတာ မုန်းလာလို့ ရှိရင် ၂ - နံပါတ်တက်ပြီလို့မှတ်။

မုန်းလာရင် ၂ - နံပါတ်တက်ပြီ၊ သူများကို မေးစရာ မလိုဘူး၊ မလိုဘူးတဲ့၊ သူများကို မေးစရာ မလိုဘူးတဲ့၊ ကောင်းပြီ၊ ဒါဖြင့် ၂ - နံပါတ်က မုန်းတဲ့ဉာဏ် တက်လာရင် မုန်းတဲ့ဉာဏ် အထမြောက်ပြီ၊ ပြန်မည့်လူတွေမို့ ဉာဏ်အဆုံးပေးလိုက်မယ်၊ ကဲ မုန်းပေ မယ့် ခင်ဗျားတို့က ဆက်လက်ပြီး ရှုနေကြပါ။

မုန်းပြီဘုရား၊ ရှုကို မရှုချင်ဘူး၊ မရှုချင်လဲနေ၊ ကြိုးစား ရှုရမယ်၊ မရှုချင်ရင် ရှုရပါမယ်၊ ကြိုးစား ရှုရမယ်၊ ကြိုးစား ရှုတော့ ဒီဉာဏ်တက်လာလိမ့်မယ်၊ ၃ - နံပါတ်တက်လာလိမ့်မယ်၊ ဒီဟာတွေဟာ ဒုက္ခသစ္စာပဲလို့ ဉာဏ်ထဲမှာမြင်လာလိမ့် မယ်၊ ဒုက္ခသစ္စာပဲလို့မြင်လာလို့ရှိရင် ၃ - နံပါတ်တက်ပြီ။ ဒုက္ခသစ္စာတွေပဲလို့ မြင်လာရင် ၃ - နံပါတ်တက်လာတဲ့ အခါကျတော့ ကို ခင်ဗျားတို့ ခြောက် ဒါ ဒုက္ခသစ္စာပဲလို့ ၃ - နံပါတ်တက်လာပါ ရော အခုပြောတဲ့ ဆယ့်သုံးခုတွေဟာ ခင်ဗျားတို့ ဉာဏ်ရှေ့မှာ ဒုက္ခသစ္စာတွေလို့ ပိုင်ပိုင်နိုင်နိုင်သိရင် အကုန်ပျောက်တယ်၊ ဒါတွေ အကုန်ပျောက်တော့ကို ခင်ဗျားတို့ ခန္ဓာပျောက်တယ်



လို့ အောက်မေ့ပါ။

ဒါတွေအကုန်ပျောက်သွားလိမ့်မယ်၊ ဒီက မဂ္ဂင်ကလဲ သမ္မာဝါစာ သမ္မာကမ္မန္တ သမ္မာအာဇီဝပြည့်မယ်၊ ရှစ်ခုပြည့်တယ်၊ ရှစ်ခုပြည့်သွားပြီ၊ ဒါက ပျောက်ပြီးတော့ သွားတယ်၊ ဒါတွေဟာ ဒုက္ခတွေဖြစ်သွားတယ်၊ ဒုက္ခပျောက်ပြီး ခြောက် ဒုက္ခ မရှိတာပါကလားလို့ ဒီဉာဏ်က သိတယ်။

ဒါဖြင့် ဒီဉာဏ် ၃ - နံပါတ်ဉာဏ်သည် နိဗ္ဗာန်မြင်တဲ့ဉာဏ်၊ ၃ - နံပါတ်ဉာဏ်သည် နိဗ္ဗာန်မြင်တဲ့ဉာဏ်ပဲလို့ မှတ်လိုက်ပါ၊ အဲဒီတော့ နိဗ္ဗာန်သာမြင်တော့တယ်၊ ဒီဖြစ်ပျက်တွေ သင်္ခါရတရားတွေအကုန်ချုပ်တယ်၊ ဘာမှ မရှိဘူးလို့ ဆုံးဖြတ်ချက်ချပါ။

ဒါဖြင့် ဒီဉာဏ်ဟာ ဘယ်သူ့ကို မြင်နေသတုံး၊ သင်္ခါရ ချုပ်တဲ့တရားမြင်နေတယ်၊ သင်္ခါရ ချုပ်တယ်ဆိုတာ ခန္ဓာပျောက်တယ်၊ အဲဒါ ပျောက်တာမြင်လို့ရှိရင် ဒါ နိဗ္ဗာန် ဒါ မဂ်ဉာဏ် သော့တာပန်တည်တာပဲ။ ဒီမဂ်ဉာဏ်လဲ ချုပ်သွားပြီးနောက် ဒီရှစ်ခုပဲ ဖိုလ်ဉာဏ်ကလာတာပဲ၊ နောက်ကျတော့ ဒီရှစ်ခု နောက်ကနေပြီး ပစ္စဝေက္ခဏာဉာဏ်တွေလာတယ်၊ အဲဒီလို လာတော့ ဒီအထဲမှာ ဒိဋ္ဌိရေသောက်မြစ်နဲ့ တကွအကုန် ပျောက်တယ်၊ ပျောက်တော့ ဒီဘက်မှာ အပါယ်သွားဖို့ခန္ဓာ ဖြစ်သေးရဲ့လား၊ အပါယ် အိုးသေ မရှိဘူးဆိုတော့ ပထမနိဗ္ဗာန် ရပြီလို့ ဆုံးဖြတ်ချက်ချပါ။

ပထမနိဗ္ဗာန်ရပြီးတဲ့ ပုဂ္ဂိုလ် ဒုတိယနိဗ္ဗာန်ရချင်တော့

ခုနင်ကဟာ ပြန်ကောက်၊ ဒီအတိုင်း ပြန်ကောက်လိုက်ရင် ရတယ်၊ ခုနင်က ဆယ့်သုံးခု ပြန်ရှုရုံပဲ၊ ခုနင်ကလိုပဲဖြစ်ပျက်မြင်ပြီး ဖြစ်ပျက်မှန်း ဒီဖြစ်ပျက်တွေဆုံးရင် ဒုတိယနိဗ္ဗာန်ရဦးမှာပဲ။

တတိယနိဗ္ဗာန်လိုချင်ပါသေးတယ်ဆိုရင် ထို့အတူပဲ ဒီက ပြန်ကောက်တယ်၊ အထူးတရား မရှိတော့ပါဘူး၊ အဲဒီ တော့ ပထမနိဗ္ဗာန်တစ်ခုကို ပိုင်ပိုင်နိုင်နိုင် ခင်ဗျားတို့ အလုပ် စဉ်နဲ့ တက္ကပါသွားတယ်ဆိုရင် ဒါ ကိစ္စပြီးတာပဲ၊ ဒါက အို၊ သေ ပြတာ ခန္ဓာကိုယ်ထဲမှာ အိုတတ်သေတတ်တဲ့ ဓမ္မရှိတယ်၊ အဲဒါ ခန္ဓာငါးပါးက လာတယ်လို့မှတ်ကြပါ။

သိပြီ၊ ဩော် ခန္ဓာငါးပါးရှိလို့ အိုရ၊ သေရတယ်ဆိုတာဖြင့် ရှင်းနေပြီ၊ ခန္ဓာငါးပါးကလဲ မိုးပေါ်ကျမဟုတ်ပါဘူးတဲ့၊ သူ့မှာ အကြောင်းရှိပါသေးတယ်တဲ့၊ တဏှာကလာပါတယ်တဲ့ကွ၊ ဒီ တဏှာကလဲ အလိုလိုတော့ အာရုံမရှိဘဲနဲ့ မပေါ်ဘူးတဲ့၊ အာရုံ ရှိမှသာ ပေါ်တယ်ဆိုတော့ သူဟာ အာရုံကြောင့်ပေါ်တာ။

ဘယ်အာရုံပါလိမ့်မလဲဆိုတော့ အာရုံတွေက နည်းတာ မဟုတ်ဘူး၊ အာရုံခြောက်ပါးတောင်ရှိတယ်၊ ဘယ်သူ့ကြောင့် ပေါ်ပါလိမ့်မလဲလို့ စဉ်းစားတဲ့အခါကျတော့ မိမိနဲ့ ဘာမှ မပတ် သက်ရင် မပေါ်ဘူး၊ ဒါ့ကြောင့် ခင်ရာမင်ရာကပေါ်တယ်၊ ခင်ရာ မင်ရာ မရှိရင်တော့ မပေါ်တော့ဘူးပေါ့၊ ဒီနား မန်ကျည်းပင် မရှိ တော့ သူ့ဟာသူ ကျိုးနေတော့ ဩော် ကျိုးတတ်လို့ကျိုးတာပဲ ဘာမှမထိနိုက်ဘူး။

ကိုယ့်သားသမီးကလေး ချော်လဲရင်တော့ အင်မတန် ထိနိုက်သွားတယ် မဟုတ်လား၊ အဲဒီတော့ ဒါဟာ ခင်ရာမင်ရာ က လာတယ်ဆိုတာ သေချာတယ်၊ ဒီတဏှာဟာ ခင်ရာမင် ရာက လာပါတယ်။ အဲဒီတော့ ခင်ရာမင်ရာဆိုတဲ့ဥစ္စာက မှတ်ရလိမ့်မယ်၊ ခင်ဗျား ဟို၊ ကိုယ့်ခန္ဓာအခင်ဆုံးလို့မှတ်လိုက်၊ ခင်ရာမင်ရာဆိုတာ ကိုယ့်ခန္ဓာအခင်ဆုံး၊ ဒီ့ပြင်လူခင်တယ်ဆို တာအလကားပြောတာ၊ ကိုယ်မချိအမိသော်လည်း သားတော်ခဲလို့ အရှိသားပဲ။

မယုံသေးလို့ရှိရင် သက်သေသာဓက ထုတ်ပြလို့ရှိရင် ရှင်းပါတယ်၊ အိမ်ကို မီးလောင်နေတယ်၊ တစ်အိမ်လုံးလဲ အိပ် နေကြတယ်၊ မိမိက မီးလောင်တာ အရင်သိလို့ရှိရင် မိမိက အရင်ထွက်ပြေးပါတယ်၊ ကိုယ့်ကိုယ်ကိုယ် အရင်သယ်တယ် ထုတ်ပါတယ်။

ပြီးတော့မှ နောက်မှ အချိန်ရသေးရင် သားကလေး သွားကယ်၊ သမီးကလေး သွားကယ်၊ ခင်ပွန်းမသွားကယ်ဆိုတော့ ဘယ်သူ့အရင် ကယ်တင်သလဲ၊ ကိုယ့်ကိုယ်ကိုယ် အရင် ကယ်တင်ပါတယ်နော်၊ ဒါ ကိုယ့်ကိုယ်ကိုယ် အခင်ဆုံးပေါ့။ ဒါဖြင့် အဲဒါ ဝိပဿနာရှုရမယ်၊ သူ့ကြောင့် ကိုယ့်ကိုယ် ကြောင့် တဏှာဖြစ်တယ်၊ တဏှာကြောင့် နောက်ခန္ဓာငါးပါးရတယ်၊ နောက် ခန္ဓာငါးပါးရလို့ အိုရ၊ သေရတယ်၊ ဒါဖြင့် ကိုယ့်ကိုယ် သာ အခင်ဆုံး။

ဒါဖြင့် ဝိပဿနာရှုတဲ့အခါကျတော့ကိုတဲ့ ကိုယ်အခင် ဆုံး ရှုရမှာပဲ၊ အဲဒီတော့ ဝိပဿနာရှုရမယ်ဆို အရင်ကလို

သတိပဋ္ဌာန်လေးပါးရှိတယ်နော်၊ ဝိပဿနာရှုရမယ်ဆိုတော့ သတိပဋ္ဌာန်လေးပါးနဲ့ ဝေဖန်ရလိမ့်မယ်၊ ကိုယ်ရှုတဲ့ သတိပဋ္ဌာန်၊ ဓမ္မတွေရှုတဲ့ သတိပဋ္ဌာန်၊ လေးမျိုးရှိတဲ့အနက်က ဒါ ကိုယ့်ကိုယ်ချည်းမှတ်လိုက်ပါ။

ကြည့်လေ ရုပ်တရားကလဲ ကိုယ့်ရုပ်ပဲ၊ ဝေဒနာကလဲ ကိုယ့်ဝေဒနာပါ၊ ကိုယ့်သန္တာန်ရှိတဲ့ဝေဒနာပဲ၊ သညာသင်္ခါရဆိုတဲ့ ဓမ္မာနုပဿနာကလဲ ကိုယ့်သန္တာန်ရှိတာပဲ၊ စိတ်ဆိုတာကော ကိုယ့်သန္တာန်ရှိတာပဲဆိုတာ မှတ်ထားလိုက်ပါ။

အဲဒီတော့ ဒါတွေ အကုန်ရှုမနေနဲ့လို့ မှတ်လိုက်၊ စိတ်တစ်လုံးတည်းကိုပြမယ်၊ စိတ်တစ်လုံးတည်းရှုလိုက်ရင် ကျန်တဲ့ သုံးပါး ပါလိမ့်မယ်၊ စိတ်တစ်လုံးတည်းရှုလိုက်ရင် ကျန်သုံးပါး ပါမယ်၊ သို့သော် ဒီဥစ္စာ ရှုပုံကလေးမပြောမီ ခင်ဗျားတို့ ဘုရားဟောတာတွေ နည်းနည်းနားထောင်လိုက်ပါဦး၊ ရှုပုံကလေး မပြောမီ၊ ဒီစိတ်တွေတော့ ရှုတော့မှာပဲ။

ဘုရားက ဟောတယ်၊ ဒီနားကနေပြီး ဘုရားပွင့်တယ်၊ ခင်ဗျားတို့ တဏှာရှိတဲ့လူက ပုထုဇဉ်မိုက်၊ ပုထုဇဉ်မိုက်သည် ခန္ဓာဖြစ်တဲ့စိတ်ကို အားကြီးခင်တယ်၊ ဘယ်လိုခင်သတုံးဆိုတော့ ကျုပ်က စိတ်ကောင်းပါတယ်၊ ကျုပ်ဟာ စိတ်ကောင်းရှိတဲ့ ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်ပဲ၊ ကျုပ်စိတ်ဟာ ဘယ်တော့မှ မပျက်ဘူးဆိုတဲ့ စိတ်အပေါ်မှာ သက္ကာယဒိဋ္ဌိရှိတယ်။

စိတ်ပေါ်မှာ သက္ကာယဒိဋ္ဌိ ရှိ - မရှိ၊ ကျုပ်စိတ်တဲ့၊ တစ်ခါတည်း ကျုပ်စိတ်ဆိုတဲ့ သက္ကာယဒိဋ္ဌိက ရှိတယ်၊ ရှိတော့ စိတ်



ပေါ်မှာ ဒိဋ္ဌိများတာကိုးဗျ၊ စိတ်အပေါ်မှာ ဒိဋ္ဌိများပါတယ်နော်။ ဒါဖြင့် ပထမ သောတာပန်တည်ချင်လို့ရှိရင် စိတ်ရှုရလိမ့်မယ်၊ ဒိဋ္ဌိခွာရမှာကိုး၊ ဒိဋ္ဌိခွာတဲ့ဝိပဿနာပေးရလိမ့်မယ်၊ ဒိဋ္ဌိခွာတဲ့ ဝိပဿနာမပေးလို့ရှိရင် ရကိုမရဘူး၊ ဒါဖြင့် ပထမအဆင့်လိုချင်လို့ရှိရင် စိတ်ကိုရှု။

ဘုရားက မင်းတို့ဟာ မင်းတို့စိတ်ကို ငါ့စိတ်၊ ငါ့စိတ်နဲ့ မင်းတို့က ဒိဋ္ဌိအင်မတန်စွဲတယ်တဲ့၊ အဲဒီငါ့စိတ်လို့ ဒိဋ္ဌိ ၊ တဏှာနဲ့ မင်းတို့စွဲတယ်၊ စွဲလို့ ခန္ဓာငါးပါးရတယ်၊ ရလို့ အိုရ၊ သေရတယ်။

ရလို့ အိုရ၊ သေရတာပါတဲ့၊ အဲဒီတော့ မင်းတို့ ဒီစိတ်ဟာ ဘုရားဖြစ်တဲ့အခါကျတော့ ဉာဏ်နဲ့ကြည့်လိုက်တယ်၊ မင်းတို့ စိတ်ဟာ လောကီဥပမာပြမယ်ဆိုလို့ရှိရင် အဆိပ်နဲ့ရောထားတဲ့အရက်ပဲ တဲ့။ မင်းတို့သည် ငါ့စိတ်လို့စွဲတဲ့လူဟာ သောက်တာပဲ၊ ဒီအရက်ကို သောက်တယ်၊ ဒီအရက်သောက်တဲ့အခါကျလို့ရှိရင်ဖြင့် ဒီခန္ဓာဒီအရက်သောက်တော့ ဒါ ခင်တယ်ပြောတာပါပဲ။

ခင်တယ်၊ စွဲလမ်းတယ်၊ ဒိဋ္ဌုပါဒါန်၊ ကာမုပါဒါန်နဲ့ စွဲလမ်းတယ်၊ စွဲလမ်းတဲ့အခါကျတော့ သေသည်၏အခြားမဲ့၌ ခန္ဓာရတယ်၊ခန္ဓာရလို့ အိုရ ၊သေရတယ်၊ ဒါဟာ အရက်သောက်မိလို့ဆိုတော့ ဒါ အရက်လို့ ဘုရားက လာဟောတာလား၊ ဘုရားပွင့်တာက ခင်ဗျားတို့သန္တာန်ရှိတဲ့ စိတ်ကို အဆိပ်နဲ့ ရောထားတဲ့အရက် ဒါကို မသိတဲ့ မင်းတို့က ခင်ကြ၊ မိုက်ကြတဲ့အခါကျလို့ ရှိရင်ဖြင့် ဒီခန္ဓာရတော့တာပဲ၊ ဒီခန္ဓာရရင် ဒီ အို၊ သေပဲဆိုတဲ့

အဆိပ်တွေက သတ်တော့တာပဲ။

ကောင်းပြီ၊ ဒါဖြင့် ဒီစိတ်ကို ခင်ဗျားတို့ ဘုရားက ငါ ငါးမျိုး ဟောခဲ့တယ်တဲ့၊ သူ့ကို အနိစ္စလို့လဲရှု၊ ဒုက္ခလို့လဲ ရှု၊ အနတ္တလို့ လဲ ရှု၊ ရောဂါလို့လဲ ရှုပါ၊ သေစေတတ်တဲ့ရောဂါလို့လဲ ရှုပါ။

ကောင်းပြီ၊ ဒီစိတ်ကို ဘေးသင့်စေတတ်တဲ့ တရားလို့လဲ ရှုပါ၊ အိုဘေး၊ နာဘေးတွေ သင့်မယ်၊ သူ့ခင်လို့ရှိရင် ဒီဘေး တွေ လွတ်ပါ့မလား၊ သင့်ရမှာပဲဆိုတာ သဘောပါပလား၊ အဲဒီ တော့ သူ့ကို ငါးချက်ရှုရမယ်နော်၊ သို့သော် ငါးချက်ဆိုတာ ပရိယာယ်မျိုးစုံအောက်ပြောတာ၊ ခင်ဗျားတို့ ရှုလိုက်တော့ အနိစ္စတစ်လုံး ရှုလိုက်လဲ ပြီးတာပါပဲ၊ အနိစ္စတစ်လုံးတည်း ရှု ပါ၊ ကျန်တဲ့ဥစ္စာ အကုန်ပါမယ်။

ဒီလို မရှုရင် သူ့ကိုနိစ္စလို့ ထင်လိုထင်မယ်၊ သုခလို့ ထင် လိုထင်မယ်၊ အနာမရှိဘူးလို့ ထင်လိုထင်မယ်၊ ဘေးမသင့်ဘူး လို့ ထင်လိုထင်မယ်၊ ထင်ရင် ခန္ဓာရမယ်၊ ခန္ဓာရရင် အိုဘေး၊ နာဘေး၊ သေဘေး လာမှာပဲ။ ရှုရမှာ စိတ်ဟာများများ မရှိပါ ဘူးတဲ့၊ မျက်လုံးကနေပြီး တော့ အာရုံကိုမြင်တဲ့ စိတ်တစ်မျိုး၊ နားထဲပေါ်တဲ့ ကြားစိတ် တစ်မျိုး၊ နှာခေါင်းမှာ နံ့စိတ်တစ်မျိုး၊ လျှာမှာ စားတဲ့စိတ် တစ်မျိုး၊ ကိုယ်ပေါ်မှာ ယားတဲ့၊ ယံတဲ့ ဒုက္ခ စိတ်တစ်မျိုး၊ ငါးခု ရသွားပြီ၊ ကိုယ်ပေါ်မှာ ကောင်းတဲ့ သုခစိတ် တစ်မျိုး၊ ခြောက်ခုရ သွားပြီ၊ အဲဒါကို အပြင်ဘက်က ဖည့်သည် ခြောက်ယောက်လို့ ရေးလိုက်။

အပြင်ဘက်ဧည့်သည် ခြောက်ယောက်ပါ၊ မြင်စိတ်၊ ကြားစိတ်၊



နံ့စိတ်၊ စားစိတ်၊ ယားယံနာစိတ်၊ ကောင်းတဲ့စိတ်၊ ဒါက ဒီယား စိတ်၊ ယံစိတ်၊ နံ့စိတ်ဟာက ကိုယ်ပေါ်မှာ ပေါ်တယ်၊ ကောင်း တဲ့စိတ်ကလဲ ကိုယ်ပေါ်မှာ ပေါ်တာပဲ၊ ကောင်းပြီ၊ ဒါဟာ ကြည့် လိုက်လို့ရှိရင် ကိုယ်၏အပြင်ဘက်မှာပေါ်လို့ အပြင်ဘက် ဧည့်သည် ခြောက်ယောက်ပါ။

အပြင်ဘက်ဧည့်သည် ခြောက်ယောက်၊ ပြီးတော့ကို အတွင်း ဧည့်သည်ပြောမယ်၊ အတွင်းမှာလဲ လောဘစိတ် အာရုံတစ်ခု ကိုလိုချင်တဲ့လောဘစိတ်၊ ဒေါသစိတ်၊ မောဟစိတ်။ အလောဘစိတ် မလိုချင်တဲ့စိတ်လဲ ရှိသေးတယ်၊ လှူချင်တန်းချင်၊ ပေးချင် ကမ်းချင်တဲ့ စိတ်ဟာ အလောဘစိတ်၊ အဒေါသစိတ်တဲ့၊ သူ တစ်ပါးကို မပြစ်မှား ကြင်နာတဲ့စိတ်၊ တစ်ခါတစ်လေ ဝမ်းထဲ မှာပေါ်တယ်။ ဒါက အတွင်းဝမ်းထဲမှာပေါ်လို့ အတွင်းဧည့်သည်ငါး ယောက်လို့မှတ်၊ ဒါ အားလုံးမှတ်ရမယ်၊ ဒါ ရှုရမယ်၊ အတွင်း ဧည့်သည် ငါးယောက်တည်းထားရမှာပေ့ါ၊ တစ်ယောက်က ရှု ရဦးမယ်၊ ရှုမည့်သူမို့ချန်ထားတယ်။

ကောင်းပြီ၊ ဒါဖြင့် အိမ်သည်နှစ်ယောက်၊ အိမ်သည်ဆို တာက ခင်ဗျားတို့ ဒီ့ပြင်ဟာ မတွေးပါနဲ့၊ လေကိုပြင်ဘက် ထုတ်တဲ့စိတ်၊ လေကို အတွင်းပြန်ရှိုက်တဲ့စိတ်၊ ဒီစိတ်ကို ယူပါ၊ လေကိုမယူပါနဲ့၊ ဘာဖြစ်လို့တုံး၊ စိတ္တာနုပဿနာမို့၊ စိတ္တာနုပဿနာဆိုတော့ လေကိုယူလို့မရဘူး။ အဲဒါကို ခင်ဗျား အမောဟ ချန်ပစ်ခဲ့၊ အမောဟဆိုတာက သူ့[illegible]ခု တည်းဖြစ်တာ မဟုတ်ဘူးတဲ့၊ အမောဟဆိုတာ [illegible]မှာဒိဋ္ဌိ၊

သမ္မာဒိဋ္ဌိလဲ ခေါ်နိုင်တယ်၊ သမ္မာသင်္ကပ္ပ၊ သမ္မာဝါယာမ၊ သမ္မာသတိ၊ သမ္မာသမာဓိ၊ မဂ္ဂင်ငါးပါး၊ ဒါ အမောဟ ပြဋ္ဌာန်းတယ်၊ သူမခေါင်းဆောင်ပဲ။

ဒီဖြည့်သည့်စိတ်လာရင်လဲ ဒီဖြည့်သည့်စိတ်ကို ဖြစ်ပျက်ရှုပါ၊ မြင်စိတ်လာလဲ ဖြစ်ပြီးပျက်သွားတာပဲလို့ ဖြစ်ပျက်ရှုပါ၊ ကြားစိတ်လာရင်လဲ ကြားစိတ်ကို ဖြစ်ပျက်ရှုရုံပဲ၊ ဖြစ်ပြီး ပျက်တယ်လို့ရှု၊ ဒါ ဖြစ်ပျက်ဆိုတာ အနိစ္စပဲ။

ကောင်းပြီ၊ ဒါတွေကို သူပေါ်ရာကို လိုက်ရှုပါ၊ သူ မျက်လုံးထဲမှာ ပေါ်တယ်၊ နားထဲမှာ ပေါ်တယ်၊ နှာခေါင်းထဲမှာ ပေါ်တယ်၊ လျှာပေါ်မှာ ပေါ်တယ်၊ သူတစ်ကိုယ်လုံးမှာ ပေါ်ချင်တဲ့နေရာမှ ပေါ်တယ်၊ သူကလဲ တစ်ကိုယ်လုံးမှာ ပေါ်ချင်တဲ့နေရာမှာ ပေါ်တယ်၊ တစ်ခါတလေကျတော့ စိတ်ကူးနဲ့ ပစ္စည်းတစ်ခုကို လိုချင်တဲ့ လောဘစိတ်လဲ ပေါ်တတ်တယ်၊ ဒေါသစိတ်လဲ ပေါ်တတ်တယ်၊ မောဟဆိုတဲ့ ဝိစိကိစ္ဆာဥဒ္ဓစ္စလဲ ပေါ်တတ်တယ်၊ ဒါတွေပေါ်လို့ရှိရင် အတွင်းဖြည့်သည်လို့ ပေါ်ရာတစ်ခုတည်း ရှု။

နဂိုတုန်းက ဒါတွေဟာ ဆယ့်သုံးခုပြထားပေမယ့် တစ်ခုသာ ပေါ်လိမ့်မယ်၊တစ်ခုကို ဒီမဂ္ဂင်ငါးပါးနဲ့ အမောဟနဲ့ ရှုပေး၊ ဒါဖြင့် သူ ပေါ်လို့ရှိရင်လဲ သူက ဖြစ်ပျက်ဆိုရင် သူက မင်္ဂဖြစ်မယ်၊ သူက ဖြစ်ပျက်ခဲ့လို့ရှိရင် သူက ရှုပေး သူက မင်္ဂဖြစ် မယ်၊ ဒါမင်္ဂရတယ်ဆိုတာ ဒါပဲ၊ လောကီမင်္ဂရတယ်။ တစ်ခါလောဘစိတ်ကလေးပေါ်လာလို့ ခင်ဗျားတို့က လောဘစိတ်ကလေး



လဲကြည့်၊ ဒါလဲကြည့်လိုက်တော့ သူ မရှိတော့ဘူး၊ မရှိတာကဖြစ်ပြီးပျက်သွားတာပဲ၊ ဒါလဲ သူက ဖြစ်ပျက် သူက မင်္ဂ။

## ဖြစ်ပျက်နဲ့ မင်္ဂနဲ့ ကိုက်ရမယ်

တော်တော်ကြာ ဒေါသစိတ်ပေါ်လာပြန်လဲ ကြည့်လိုက်ပြန်လဲ မရှိဘူး၊ ဖြစ်ပျက်နဲ့ မင်္ဂနဲ့ ကိုက်ရမယ်၊ ဒါလဲ ဖြစ်ပျက်နဲ့ မင်္ဂနဲ့ ကိုက်၊ ဒါလဲ ဖြစ်ပျက်နဲ့ မင်္ဂနဲ့ပေါ်တဲ့အခါ လိုက်ပေးပါ။ ဘာမှ မရှိဘူး၊ အပြင်ဖြည့်သည် ခြောက်ယောက်၊ အတွင်းဖြည့်သည် ငါးယောက်မရှိဘူး၊ အိမ်သည်နှစ်ခုက အမြဲတမ်းရှိနေ၊ ဘာမှမရှိရင် သူတို့နှစ်ခု လှည့်ရှု၊ ညာက်နဲ့ မှန်းရှုပါ။

ဒါ ရှုနေတဲ့အချိန်ဖြင့် သူတို့ကို သူတစ်လှည့်၊ သူတစ်လှည့် သူက အလှည့်နဲ့ပေါ့လေ၊ ဘေးက အာရုံဝင်လာလို့ရှိရင် ပေါ်ချင်တာက ပေါ်လာလိမ့်မယ်၊ ပေါ်ရင် ပေါ်တာကို လိုက်ပေး၊ ပေါ်တဲ့စိတ်ကိုရှု၊ သူတို့ မရှုပြန်ဘူး။ ကောင်းပြီ၊ ဒီလိုရှုလိုက်တော့ ဖြစ်ပျက်နဲ့ မင်္ဂနဲ့သွားကိုက် တဲ့အခါကျတော့ သူ့နောက်က ခုနကပြောခဲ့တဲ့ တဏှာလာသေးရဲ့လား။ ခန္ဓာငါးပါးကော မလာပါဘူး၊ အအို၊ အသေကော မလာတော့ပါဘူး။ အဲဒီတော့ သူတို့နှစ်ခုနောက်က တဏှာလိုက်မှ သူတို့ တစ်ခုတစ်ခုနောက်မှ တဏှာဒိဋ္ဌိလိုက်မှသာလျှင် ခန္ဓာငါးပါးလိုက်တယ်၊ ခန္ဓာငါးပါးလိုက်မှ အအို၊ အသေ လိုက်ပါတယ်။ ဒါဖြင့် ဒီဟာတွေ ဖြစ်ပျက် လှည့်ရှုနေလို့ရှိရင် မင်္ဂလိုက်လာခြင်း

ကြောင့် တဏှာပြတ် ခန္ဓာပြတ်ပါတယ်၊ အားလုံး နားလည်ကြရဲ့လား၊ ဒါ စိတ္တာနုပဿနာကိုပေးတယ်။

ကိုင်း ဒါဖြင့် ရှုတဲ့ကျေးဇူးကော သိပလား၊ ဒီဟာ ကျေးဇူးခံစားရတာပေါ့၊ ဒီတဏှာချုပ်တယ်၊ ခန္ဓာကော ချုပ်ပါတယ်၊ အို၊ နာ၊ သေကော မရှိဘူးဆိုရင် ဒါရဲ့ ကျေးဇူးပေါ့၊ မရှုဘဲနေလို့ရှိရင် သူတို့နောက်က ဒါတွေအကုန်လိုက်မယ်၊ ဒီပဋိစ္စသမုပ္ပါဒ်လိုက်မယ်။ ဒီ မဂ်သွင်းမှ ဒါပြတ်တယ်၊ဒီ အမောဟသွင်းမှ ခုနင်က ဒီနေရာမှာ အမောဟချန်သွားတယ်၊ အမောဟဆိုတာတစ်ခုတည်းမဖြစ်လို့ ချန်ထားတယ်၊ အမောဟဆိုတာ သမ္မာဒိဋ္ဌိပဲ၊အမောဟလဲခေါ်နိုင်တယ်၊ သမ္မာဒိဋ္ဌိလဲ ခေါ်နိုင်တယ်၊

သမ္မာဒိဋ္ဌိ၊ သမ္မာသင်္ကပ္ပ၊ သမ္မာဝါယာမ၊ သမ္မာသတိ၊ သမ္မာသမာဓိ၊ မဂ္ဂင်ငါးပါးနဲ့ ခင်ဗျားတို့ ပေါ်ရာကိုလိုက်နေ၊ ရှုတတ်ပြီနော်၊ ဒါ စိတ္တာနုပဿနာ၊ ရှုလိုက်တော့ သူ့နောက်က တဏှာဒိဋ္ဌိသေတယ်၊ တဏှာဒိဋ္ဌိသေတဲ့အတွက် တဏှာနဲ့ ဒိဋ္ဌိဟာ တွဲလျက်၊ တဏှာဒိဋ္ဌိကမှ ဒိဋ္ဌုပါဒါန်မဟုတ်ဘူးလား၊ တဏှာကလဲ ဥပါဒါန်၊ ဒိဋ္ဌိကလဲ ဥပါဒါန်။ ဥပါဒါန်ချုပ်တော့ကို ခန္ဓာချုပ်တယ်၊ ခန္ဓာချုပ်တော့ကို အအို၊ အသေ ချုပ်တယ်၊ ဒီအလုပ်ဟာ ခင်ဗျားတို့မှာ မလုပ်မ ဖြစ်တဲ့အလုပ်၊ ထမင်းမစားဘဲနေချင်နေ၊ ဒီအလုပ် လုပ်ရမယ်၊ ဒီ ဒုက္ခကြောက်တဲ့လူ ဒီအလုပ် လုပ်ရမယ်၊



သမထလား ဝိပဿနာလား

ကောင်းပြီ၊ ဒါက သမထလား ဝိပဿနာလားဆိုတော့ ဒီအထဲမှာ သမ္မာဒိဋ္ဌိ၊ သမ္မာသင်္ကပ္ပက ဝိပဿနာ၊ သတိဝီရိယ သမာဓိက သမထ၊ သမထနဲ့ဝိပဿနာရောပြီးရှုတာ။ သမထနဲ့ ဝိပဿနာရောပြီးရှုတာပါ။ ရောပြီးတော့ အလုပ် လုပ်တာ၊ ဒါဖြင့် သမထနဲ့ ဝိပဿနာရောပြီး လုပ်နိုင်းလို့သာလျှင် ဖြစ်တာကို သိတာက သတိကလဲ သိတယ်၊ ဖြစ်တိုင်း ဖြစ်တိုင်း သမာဓိထားလို့လဲ သိတယ်၊ ဝီရိယစိုက်လို့လဲ သိတယ်၊ သမထက ပါနေတယ်၊ ဒီတရားတွေ မနိုင်ဘူး၊ မမြဲဘူးလို့ သိတာက ပညာက သိတာ။

ဒါဖြင့် သတိပညာနဲ့ရောလွှတ်တာ သတိပညာနဲ့ရောလွှတ်တဲ့အတွက် သမထ ဝိပဿနာနှစ်ခုနဲ့ရှုတာ၊ သမထအထူး မတည်ထောင်နဲ့ပေါ့။ ဘုရားက သမထရှေ့သွား ဝိပဿနာ နောက်လိုက် ငါ တစ်မျိုးဟောခဲ့ပြီတဲ့၊ ရှုနည်းလဲ ငါ တစ်မျိုးဟောခဲ့တယ်တဲ့။ သမထရှေ့သွား ဝိပဿနာ နောက်လိုက် ၊ ဒီလိုလဲ ဟော ခဲ့တယ်တဲ့၊ ဝိပဿနာရှေ့သွား သမထနောက်လိုက်လဲ ငါ ဟောခဲ့တယ်တဲ့၊ တွဲပြီးလွှတ်တာလဲ ဟောခဲ့ပါတယ်၊ အခုဟာက တွဲပြီးလွှတ်တဲ့နည်းပေးလိုက်တယ်။ ဟိုဟာတွေက တစ်သန့်စီ၊ တစ်သန့်စီ လုပ်နေလို့ ကြာတယ်၊ ခင်ဗျားတို့ သတ်တမ်းတိုတိုနဲ့ တွဲဟောလိုက်လို့ရှိရင် တစ်ခါတည်းပြီးသွားတာပဲ။

ဒါဖြင့် ဖြစ်တိုင်းဖြစ်တိုင်း သိလို့ရှိရင် သမထက သိတယ်၊

ပျက်တိုင်း ပျက်တိုင်း သိလို့ရှိရင် ဝိပဿနာက သိတယ်၊ဒါဖြင့် ဖြစ်ပျက်သိလို့ရှိရင် တွဲလိုက်ပါ။ ဖြစ်ပျက်နှစ်ခု စလုံးသိရင် သမထဝိပဿနာ သိပါတယ်လို့မှတ်ကြပါ။

အဲ နှစ်ခုတွဲ ဆက်သိတဲ့နည်း ယုဂနဒ္ဓနည်းလို့ ခေါ်သည်၊ ယုဂနဒ္ဓဆိုတာ နွားနှစ်ကောင် တစ်ပြိုင်နက် မောင်းတာ၊ နွားနှစ်ကောင် တစ်ပြိုင်နက် မောင်းတာ တိုတိုနဲ့ ခရီးရောက်တာပေါ့။ ခင်ဗျားတို့ ဒီအပေါ်မှာ လွှတ်လိုက်လို့ရှိရင် အဖြစ်မြင်လို့ရှိရင် ခင်ဗျားတို့ မှတ်လိုက် ဥစ္ဆေဒဒိဋ္ဌိ သေပါတယ်၊ အပျက်မြင်လို့ရှိရင် သဿတဒိဋ္ဌိ သေပါတယ်။ အဖြစ်မြင်လို့ရှိရင် ဥစ္ဆေဒ ဒိဋ္ဌိ သေပါတယ်၊ အပျက်မြင် လို့ရှိရင် သဿတဒိဋ္ဌိ သေပါတယ်၊ အဖြစ်အပျက်နှစ်ပါးလုံး မြင်လို့ရှိရင် သက္ကာယဒိဋ္ဌိ သေတယ်၊ ဒါကို သေသေချာချာ မှတ်ပါ။ ဒါ သိပ်အရေးကြီးတဲ့စကားပါပဲ။

အဖြစ်မြင်တော့ အကြောင်းကြောင့်ဖြစ်တယ်ဆိုတာ သိတာကိုး၊ ဒါကြောင့် ဥစ္ဆေဒဒိဋ္ဌိ သေတယ်၊ အပျက်မြင်တော့ မနိုင်လို့ ပျက်တယ်ဆိုတာ သိကတည်းကိုက ခင်ဗျားတို့ နိုင်မြဲတယ်ဆိုတဲ့ သဿတဒိဋ္ဌိသေပြီ။ ဖြစ်ပျက်နှစ်ခုစလုံး မြင်လိုက်လို့ရှိရင် ဪ ငါ ငါ့ဥစ္စာ မဟုတ်ဘူးဆိုတဲ့ သဿတဒိဋ္ဌိ သေတယ်၊ ဒါ တော်တော်အရေးကြီးတယ်၊ ခင်ဗျားတို့ ရှုတာ ဘာကျေးဇူးရှိသတုံးဆို တော့ ဒိဋ္ဌိသုံးမျိုးကွာတယ်။

ဒါကွာသွားပြီ၊ ဒိဋ္ဌိတဏှာလဲ ကွာသွားပြီ၊ သူကွာကတည်းက ဒိဋ္ဌိကမှ ပပဉ္စဖြစ်ရမည့် ဥစ္စာ ဖြစ်နိုင်သေးရဲ့လား၊ ခန္ဓာဖြစ်အောင် မချဲ့နိုင်တော့ ဒီ အို ၊ သေကောလာပါ့မလား။



ဒါဖြင့် သံသရာပြတ်တယ်၊ ဒီသံသရာကြီးပြတ်တယ်၊ ဒီ ဒိဋ္ဌိသုံးမျိုးမဂ်က သတ်ချလိုက်တယ်၊ မဂ်က ဒိဋ္ဌိသုံးမျိုး သတ်လိုက်တယ်တဲ့၊ ဒီ ဒိဋ္ဌိသုံးမျိုး သတ်လိုက်တော့ ပဋိစ္စသမုပ္ပါဒ် ပြတ်တယ်။

ကောင်းပြီ ဒါဖြင့် ခင်ဗျားတို့သည် ဒီပဋိစ္စသမုပ္ပါဒ်ဟာ ဘုရားမရှိရင် သူပဲတန်းလာတာပဲ၊ ဘုရားရှိငြားသော်လဲ ကလျာဏမိတ္တမတွေ့ရင် ဒီလာပြန်တာပဲ၊ ကောင်းပြီ၊ ဒါဖြင့် ခင်ဗျားတို့ အခုကလျာဏမိတ္တနဲ့တွေ့တော့ တွေ့ပြီ၊ တွေ့ပေမယ့် ဥပကတွေ့ဖြစ်နေတယ်။ အတွေ့က အမျိုးမျိုးရှိတယ်၊ ပဉ္စဝဂ္ဂီအတွေ့က တစ်မျိုး၊ ဥပကတွေ့တစ်မျိုးပါ၊ ခင်ဗျားတို့က ဥပကတွေ့ဖြစ်နေပါ တယ်နော်၊ ဥပကတွေ့ပဲရှိသေးတယ်၊ အရင်ဟာ အရောင် အဆင်း အလင်းတွေနဲ့ ဣန္ဒြေသမ္ပတ္တိနဲ့ ကိုယ်တော်ကြီးပဲလို့ဆိုပြီး အသင့်ဆရာ ဘယ်သူနည်းမေးတော့ ငါ ဆရာမရှိဘူးလို့ ဘုရားက ပြောလိုက်တယ်။

အကြောင်းရှိရင် အားကိုးပါရစေ၊ အားကိုးတာပေါ့၊ ဘွဲ့ကလေးပြောခဲ့စမ်းပါဦး၊ အနန္တဇိနတဲ့ ဒါပဲ ပြောတာပဲ၊ဘုရားက သူတွေ့ရတော့ ဘာအထူးရသတုံး ပဉ္စဝဂ္ဂီတို့ကတော့ တွေ့လျှင်တွေ့ချင်း ရပါတယ်၊ အခု ခင်ဗျားတို့ ဒီမဂ္ဂဗြဟ္မစရိယ အကျင့် အထ မမြောက် သေးလို့ ဥပကတွေ့ပဲ ဖြစ်နေသေးတယ်။

ဒီအလုပ်မလုပ်တတ်ရင် ဥပကတွေ့ပဲကွ၊ နည်းတော့ ပေးနေတာပါပဲ၊ဒါမဂ္ဂဗြဟ္မစရိယအကျင့်ဆိုတာ ဘာမှ သံသယမရှိနဲ့၊

ဒီနှစ်ခုပြတ်တယ်ဆိုတာ သူများပြောမဟုတ်ပါဘူး။ ဒီသမုဒယသစ္စာ သုံးခုနဲ့ ဒီဒုက္ခသစ္စာသုံးခု ပြတ်ပါတယ်၊ ဒါ သူများပြောလား၊ ကိုယ်တွေ့ပါ။ ဒီဟာကိုသာ ခင်ဗျားတို့ ဝိပဿနာဉာဏ်နဲ့ တင်လိုက်စမ်း၊ ဒီသုံးခုချုပ်ပါတယ်။

အဲဒီတော့ကို တို့ဟာ ဆရာဘုန်းကြီးကတော့ ဟောနေပြီ၊ဆရာကောင်းလဲ တွေ့နေပြီ၊ လူမိုက်နဲ့ လူလိမ္မာ ကိုယ့်ကိုယ် ခွဲတတ်ပြီ၊ အချိန်ပိုင်းနဲ့ ခွဲတတ်ပြီ၊ ခင်ဗျားတို့ သူများကို တစ်သက်လုံးဆုံးမ၊ ဩော် ငါ လူမိုက်ကြီးကိုးလို့ ဒီလိုမဟုတ်ပါဘူး၊ အချိန်ပိုင်းနဲ့ ခွဲတတ်တာ။ အချိန်ပိုင်းနဲ့ ခွဲတတ်တယ်ဆိုကတည်းက ခင်ဗျားတို့ ဩော် ဒါကျင့်နေလို့ရှိရင် ဒီအချိန်မှာ ပညာရှိ၊ ဒီအချိန်မှာ မကျင့်မိရင် လူမိုက်ပါပဲနော်။သွားစရာလာစရာကိစ္စတွေ များလွန်းလို့ ဘုရား၊ ဒါ သူ့ ဟာသူ ဘာပြောပြော သူ့ဟာသူ ဘာဖုံးဖုံး၊ မဟုတ်ဘူးလား၊ သူ့ဟာသူ ဘာဖုံးနေနေ ဘာဆိုကြမယ် လူမိုက်ပါ၊ အဲဒီတော့ ခင်ဗျားတို့သုံးတဲ့ အသုံးအနှုန်းဟာ ဒီနေ့ ဘယ့်နှယ်တုံး၊ ဒါ့ လုပ် နေပါတယ်၊ ဒီ့ပြင်ဟာ အဖြေပေးစရာ မရှိပါဘူး။

ဒကာရင်း ဆရာရင်းဆိုရင် ဒါပဲ ပြောရမယ်၊ ဒီ့ပြင် ဝေ့လည်ကြောင်ပတ် လုပ်မနေနဲ့တော့၊ ဒါကို ငြင်းလို့မရဘူး၊ ဒါဖြင့် ခင်ဗျားဒီဘက်နဲ့ ဟိုဘက် ဘယ်ဘက်နဲ့ ကြီးလာသတုံး၊ ဟိုဘက်က ကြီးလာပါတယ်၊ အဲ သူ့ဟာသူ ပြောတာပဲ။

ကိုယ့်ဟာကိုယ်မေးတော့ ဩော် ဒီဘက်က တပည့်တော် ဒီလိုကြီးလာခဲ့တယ်၊ ဒီဘက်တန်းကြီးနဲ့ ကြီးလာတယ်၊



ဒီဘက်တန်းနဲ့ တပည့်တော်သည် အခုမှ ဥပကာတွေ့ရှိသေးတယ်၊ ပဋ္ဌဝဂ္ဂိတွေ့မဖြစ်သေးဘူး။ ပဋ္ဌဝဂ္ဂိတွေ့တော့ လုပ်ကြပါစို့တဲ့၊ ပဋ္ဌဝဂ္ဂိတွေ့ တွေ့မှ ခင်ဗျား သောတာပန် စ - တည်ရမှာ၊ မဟုတ်ဘူးလား၊ ကဲ ပဋ္ဌဝဂ္ဂိတွေ့ တွေ့ကြစို့ဆိုတော့ ဒါကိုဖြန့်လိုက်လို့ တစ်နေ့က ပြောတယ်၊ ဖြန့်လိုက်တော့ ခန္ဓာငါးပါးဖြစ်ပါတယ်၊ ဝိညာဏ်၊ နာမ်ရုပ်၊ သဠာယတန၊ ဖဿ၊ ဝေဒနာ၊ ပေါင်းလိုက်တဲ့အခါ ခန္ဓာငါးပါးပဲ။

ခန္ဓာငါးပါးကို သတိပဋ္ဌာန်နဲ့ ပေါင်းလိုက်ရင် ဘယ်လောက်ရမလဲ၊ လေးပါးတဲ့၊ ကာယနုပဿနာ၊ ဝေဒနာနုပဿနာ၊ စိတ္တာနုပဿနာ၊ ဓမ္မာနုပဿနာ၊ သညာသင်္ခါရက ဓမ္မာနုပဿနာ၊ စိတ်က စိတ္တာနုပဿနာ၊ ဝေဒနာက ဝေဒနာနုပဿနာ၊ ရုပ်က ကာယာနုပဿနာ။ ဟာ ကြာတယ်ဘုရား၊ တပည့်တော်တို့ လူအိုကြီးတွေ ဖြစ်နေပါပြီ၊ သတိပဋ္ဌာန်လေးပါးဆိုတော့ သတိပဋ္ဌာန်လေး ပါးကို လေးပါးလုပ်မနေနဲ့၊ တစ်ပါးတည်းပဲလုပ်၊ ခင်ဗျားကြာ ပါတယ်၊ အသေစောသွားလိမ့်မယ်၊ တရားက ရမှာမဟုတ်ဘူး၊ အသေက စောလိမ့်မယ်၊ အပါယ်ရောက်မှာက စောနေလိမ့်မယ်။

အဲဒီတော့ ဒါလဲ ဖြစ်ပျက်ရှုရမှာပဲ၊ ဒါလဲ ဖြစ်ပျက်ရှုရမှာပဲ၊ ဒါလဲ ဖြစ်ပျက်ရှုရမှာပဲ၊ ဒါလဲ ဖြစ်ပျက်ရှုရမှာပဲဆိုတော့ ဖြစ်ပျက် ဒုက္ခသစ္စာပါ။ ဒါဖြင့် ဒုက္ခသစ္စာတစ်လုံးတည်းရှု ခင်ဗျားတို့ ကြာနေလိမ့်မယ်။ ဘာဖြစ်ပျက်ရှုရမလဲ ဒုက္ခသစ္စာတစ်လုံးတည်းရှုရပါမယ်၊ ဒါဖြင့် ဓမ္မာနုပဿနာတစ်ပုဒ်တည်း

လုပ်လိုက်တော့ ကြာတယ်၊ ဘာတစ်လုံးတည်းလုပ်ရမတုံး၊ ဒုက္ခသစ္စာဆိုတော့ သတိပဋ္ဌာန်လေးပါးထဲသွင်းတော့ ဘယ်အထဲ ဝင်သွားသတုံး၊ ဓမ္မာနုပဿနာထဲ ဝင်သွားပါတယ်။

ဒါဓမ္မာနုပဿနာ တစ်လုံးတည်းရှုရမယ်၊ ဓမ္မာနုပဿနာဆိုတာ ဓမ္မ၊ အနုပဿနာ ခွဲလိုက်၊ ဟိုက ဘာတုံး ဓမ္မပါ၊ ဒီဘက်က အနုပဿနာပါ၊အဲဒီတော့ ဓမ္မနဲ့အနုပဿနာကို ကိုက်ပေး၊ ဒါမှ ဓမ္မာနုဓမ္မပဋိပတ္တိ။ ခင်ဗျားတို့က ပန်းကလေးလှူပြီး "ဣမာယဓမ္မာနု ဓမ္မာ ပဋိပတ္တိယာ ဗုဒ္ဓံပူဇေမိ" တဲ့၊ ဓမ္မာနု ဓမ္မပဋိပတ္တိဆိုတာ ဒါမဟုတ်ဘူး၊ ဒီ ဓမ္မာဖြစ်ပျက်၊ ဒီ အနုပဿနာက ရှုတာလို့မှတ်ပါ။